# တစ်ခွင်ကမ္ဘာ

# ကရုဏာပွားသူ



ပြုစုသူ

မုဖ်သီ မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ-မဇွာဟေ့ရီ-အဗုလ်ဟာစနီ)

## ပုံနှိပ်မှတ်တမ်း

ထုတ်ဝေမှု- ၂၀၂၄ခုနှစ်၊ ဒီဇင်ဘာလ (ပထမအကြိမ်)

ထုတ်ဝေသူ- ဦးဘိုဘိုဇော် (မြဲ ၀၁၃၅၃)
ရွှေစာပေ အမှတ် ၄၇၉၊ ၃၁လမ်းနှင့် ဗိုလ်ဆွန်ပက်လမ်းကြား၊
မဟာဗန္ဓုလလမ်းမကြီး၊ ပန်းဘဲတန်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ပုံနှိပ်သူ- ဦးတင့်လွင် (မြဲ ၀၀၆၇၃)၊ လင်းပုံနှိပ်တိုက်
အမှတ် ၃၁၊ ရန်နိုင်ဆွေ (၁)လမ်း၊
သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

အုပ်ရေ- ၅၀၀

တန်ဖိုး- ၁၀၀၀၀ ကျပ်

ဖြန့်ချိရေး- ရန်ကုန်- လွင်ကိုကိုဦး ၀၉-၅၁၈၉၉၀၈
မန္တလေး- ချစ်သက်ညီ ၀၉ ၇၈၆၂၇၈၆၂၃

**စာအုပ်ကတ်တလောက်အချက်အလက်များ- CIP**

မုဟမ္မဒ် အာစွင်းမ်၊ မုဖ်သီ ၂၉၇.၆၃

တစ်ခွင်ကမ္ဘာကရုဏာပွားသူ
ရန်ကုန်၊ ရွှေစာပေ၊ ပထမအကြိမ်၊ ၂၀၂၄၊ စာ ၁၃၉

၁၄.၈စင်တီမီတာ × ၂၁ စင်တီမီတာ



## မာတိကာ



# စာရေးသူ၏ အမှာစာ

الحمد لله وحده والصلاة والسلام على من لا نبي بعده وعلى آله وصحبه الذين اتبعوا سننه وهديه

မေ့လျော့ပေါ့ဆခြင်းတွေနဲ့ အသားကျနေတဲ့ နှလုံးသားကို နဗီ့အချစ်၊ နဗီ့အလွမ်းများနဲ့ ပြန်လည် နိုးထလာစေတဲ့ လမြတ်.....။

ဒုစရိုက်ဖုံးလွှမ်းနေတဲ့ နှလုံးရပ်ဝန်းကို ဒရူးဒ်မေတ္တာတွေ ပိုမိုဆွတ်ဖြန်းခွင့်ပေးတဲ့လမြတ်....။

ရဗီအွလ်အောက်ဝလ်.....ရွက်ဟောင်းကြွေ ရွက်သစ်ဝေတဲ့ လမြတ်....။

ကျွန်တော်တို့ အသက်ထက်ချစ်မြတ်နိုးရတဲ့ နဗီတမန်တော်မြတ်ﷺ နဲ့ ကျွန်ုပ်တို့ကို မိတ်ဆက်ပေးခဲ့တဲ့ လမြတ်...။

ဒီလမြတ်နီးကပ်လာလေတိုင်း နဗီ့အွမ္မသီ ပီပီ စာပေသမိုင်းမှတ် တိုင်တစ်ခု စိုက်ထူချင်စိတ်ဟာ တားဆီးမရတဲ့ နှလုံးသားထဲက နဗီ့ အချစ်ခေါ်သံတစ်ရပ်ပါ။

နဗီ့ကို...ရေးရင်းနဲ့လည်း ချစ်ချင်ပါတယ်.... ချစ်ရင်းနဲ့လည်း နဗီ့အကြောင်းကို ရေးချင်ပါတယ်။

ဒီမှန်ကန်တဲ့ အချစ်သက်သေကြောင့် တမလွန်မှာ နဗီနဲ့အမြဲထာဝရဆုံစည်းပါရစေ.....။ (အာမီးန်)

နဗီ့အပါး ခစားပြီး လောကမှာ မရရှိခဲ့တဲ့ နဗီ့အပါးတော် ခစားခွင့်(ဆွဟာဗီဂုဏ်)မျိုး တမလွန်မှာ ရရှိပါရစေ…။

ဆွဟာဗာကြီးတွေ လက်ဆင့်ကမ်း ဆင့်ပြန်ခဲ့တဲ့ နဗီ့တနေ့တာ နဗီ့အကြင်နာ…၊ နဗီ့မေတ္တာ…၊ နဗီ့အပြုံး…၊ နဗီ့မိန့်ခွန်းများ…၊ နဗီ့ ကိုယ်ကျင့်တရား…၊ နဗီ ရုပ်ဆင်းအင်္ဂါတော်များကို တစိမ့်စိမ့် ကြည့်ရှု ခံစားပြီး…၊ ဂျန္နသ်ထဲမှာရှိတဲ့ စက္ကန့်တိုင်းကိုနဗီနဲ့အတူ ကုန်ဆုံးခွင့်ကို မှန်းမျှော်ပါရစေ….။

လောကမှာ ဆွဟာဗီမဖြစ်ခဲ့ရင်လည်း တမလွန်မှာတော့ နဗီအပါးက ဆွဟာဗီ ဖြစ်ခွင့်ချီးမြှင့်ပေးပါ။ အို အရှင်၊ လိုတရ ဂျန္နသ်ကြီးနဲ့ မထိုက်တန်ပေမယ့် အရှင့်ကရုဏာနဲ့ ထိုက်တန်သူတွေပါ ချစ်နဗီရဲ့ ရှဖာအသ်ကို မျှော်ကိုးသူတွေပါ။ အို…အရှင် ကျွန်ုပ်နှင့်တကွ မိသားစုဝင်များ၊ မိဘများ၊ မောင်နှမသားချင်းများ၊ ဆွေမျိုးများ၊ ဆရာသမားများ၊ တပည့်သားချင်းများနှင့်မွတ်စ်လင်မ်ထုတစ်ရပ်လုံး၊ ဤစာအုပ်မှ အကျိုးခံစားသူ အပေါင်းတို့ကို နဗီ့အပါးတော်ခစား တမလွန်ဆွဟာဗီများအဖြစ် ပြုလုပ်ပေးသနားတော်မူပါ။

ဒီခံစားချက်လေးတွေကို အရင်းတည်ထားတဲ့ နှလုံးသားရဲ့ နဗီ့အချစ် ပေါက်ကွဲအားတွေနဲ့ မနှစ်က(ဟစ်ဂျ်ရီ ၁၄၄၅)ခု၊ ရဗီအွလ် အောက်ဝလ်လမြတ်မှာ စီရသ်ဆိုင်ရာ သင်ခန်းစာလေးတွေကို ရေးသားခဲ့ပါတယ်။ ပြီးတဲ့အခါ “ငါးမိနစ်အတွင်း အောင်မြင်ခြင်းခရီး” ခေါင်းစဉ်အသံဖိုင်တွေအဖြစ်လည်း တင်ဆက်ခဲ့ပါတယ်။

ဒီရေးသားချက်တွေထဲမှာ တစ်လောကလုံးအပေါ် နဗီရဲ့ ကရုဏာလွှမ်းခြုံနေပုံကို အဓိကထားရေးဖြစ်ခဲ့ပါတယ်။ အဲ့လို ရေးသားတဲ့နေရာမှာ ဒေါက်တာ အာအိဇ် အလ်ကရ်နီရဲ့ ملهم العالم ကျမ်းပါ محمد صلى الله عليه وسلم رحيما "တစ်ခွင်ကမ္ဘာ ကရုဏာပွားသူ မုဟမ္မဒ် ﷺ "အခန်းတစ်ခုလုံးကို ပြန်ဆိုဖြစ်ခဲ့ပါတယ်။ ဒီကျမ်းကို အဓိကဘာသာပြန်ဖို့ တိုက်တွန်းခဲ့တဲ့ ဒေါက်တာ မုဟမ္မဒ် ဆွာလေ့ဟ် @ Dr Freddy Myat Min Kyaw (U K ) ကိုလည်း ကျေးဇူးအထူးတင်ရှိပါတယ်။ ပြီးတဲ့အခါ ရင်ထဲအသဲထဲမှာ နဗီကြီးနဲ့ ပတ်သက်ပြီး စီရသ်မှာ လေ့လာခဲ့သမျှ ထင်ကျန်နေတဲ့ ယနေ့ခေတ်အတွက် အကျိုးဖြစ်ထွန်းစေမယ့် ခေါင်းစဉ် လေးတွေကိုလည်း တင်ပြထားပါတယ်။ ရေးသားဟန်ကိုလည်း နဗီ့ အချစ်တွေမြန်မြန် ကူးစက်ပေးနိုင်ဖို့အတွက် စကားပြောဟန်ကိုပဲ ရွေး ချယ်ဖြစ်ခဲ့ပါတယ်။

ကျန်ရှိနေတဲ့ အခိုက်အတန့်တွေ၊ ဘဝရဲ့ စက္ကန့်လေးတွေကို နဗီ့အချစ်၊ နဗီ့အလွှမ်းတွေထဲမှာ စီးမျှောကြည့်ကြပါစို့လား....။

ဒီကျမ်းဖြစ်မြောက်ရေးအတွက် အကျိုးအကြောင်း ညီညွတ်စေပြီး စွမ်းအားများချီးမြင့်ပေးသနားတော်မူသော အရှင်မြတ်ကို ကိုယ်နှုတ်နှလုံး ဉ်သုံးပါးလုံးနဲ့ ချီးကျူးထောမနာ ပြုအပ်ပါတယ်။

ချစ်ရတဲ့နဗီတမန်တော်မြတ် ﷺ နဲ့ အိမ်တော်သူ အိမ်တော်သားများ၊ ဆွဟာဗာများ အပေါ် ငြိမ်းချမ်းသာယာမှုများ ၊ ဒရူးဒ်မေတ္တာမိုးများ ရွာသွန်းဖြိုးတော်မူပါစေ။

ဤစာအုပ်ဖြစ်မြောက်ရေးအတွက် အဓိကထား ကြိုးစားပေးခဲ့တဲ့ ချစ်တပည့် မုဟမ္မဒ်ကအဇ်ဟာစံ၊ မြန်မာစာအပိုင်း စိစစ်ပေးပါတဲ့ ကျွန်ုပ်၏ဆရာသခင် အလ်ဟားဂျ်ဆရာဦးအေးမူBsc.(Zoo)၊မော်လာနာ မုဟမ္မဒ်အွဆ်မားန် (အလ်ကောင်ဆရီ)၊ မော်လာနာ မုဖ်သီ အဇ်ဒုလ်ဂနီ (နဒ်ဝီ)တို့ကို ရင်ထဲ အသဲထဲမှ ကျေးဇူး ဥပကာယ တင်ရှိပါကြောင်း မှတ်တမ်းတင်လျက်.....။

**မုဟမ္မဒ်အာစွင်းမ် (နဒ်ဝီ-မဇ္ဇာဟေ့ရီ-အဗုလ်ဟာစနီ)**
**ဟစ်ဂျ်ရီ ၁၄၄၆ခုနှစ်၊ ရဗီအုလ်အောက်ဝလ်လ၊ (၂၆)ရက်**
**ခရစ်နှစ် ၂၀၂၄ခုနှစ်၊ စက်တင်ဘာလ၊ (၃၀)ရက်**

## စီရသ်ဆိုင်ရာ သုတကမ္ဘာ

### (၁) စီရသ်၏ ဖွင့်ဆိုချက်

စီရသ် ဆိုသည်မှာ -

အတ္ထုပ္ပတ္တိ၊ သွားရာလမ်း (ဘဝခရီးလမ်းကို ဘလို ဖြတ်သန်းခဲ့လဲ)

**အစ္စလာမ့် ဝေါဟာရမှာတော့-**

ကိုယ်တော်မြတ်ﷺရဲ့ စီရသ် (အတ္ထုပ္ပတ္တိ)ကိုသာ ဆိုလိုပါတယ်။ ကိုယ်တော်မြတ်ﷺမွေးဖွားချိန်ကနေ ကွယ်လွန်ချိန်အထိ ကိုယ်တော်နဲ့ ပတ်သက်သမျှကို လေ့လာတဲ့ ဘာသာရပ်ကို စီရသ် ဘာသာရပ်လို့ ခေါ် ဆိုပါတယ်။

### (၂) အဓိကထားလေ့လာချက်

ကိုယ်တော်မြတ် ﷺ မွေးဖွားချိန်ကနေ ကွယ်လွန်ချိန်အထိ ကိုယ်တော်နဲ့ ပတ်သက်သမျှကို လေ့လာသွားပါမည်။

### (၃) အကျိုးကျေးဇူး

- ကိုယ်တော်မြတ်ﷺ၏ အမိန့်တော်အတိုင်း ဘဝတည်ဆောက်နိုင်ဖို့။
- ကိုယ်တော့်အချစ်ရဖို့
- နှစ်ဘဝအောင်မြင်မှုရဖို့

### (၄) ထွတ်မြတ်မှု

ကိုယ်တော်မြတ်ﷺထွတ်မြတ်သကဲ့သို့ ကိုယ်တော့် စီရသ်ဟာလည်း ထွတ်မြတ်ပါတယ်။

### (၅) ပတ်သက်ဆက်နွယ်မှု

ကိုယ်တော်မြတ်ﷺနှင့် တိုက်ရိုက် ပတ်သက်ဆက်နွယ်နေပါတယ်။

### (၆) စတင်မျိုးစေ့ချခဲ့သူ

- ဆွဟာဗာသာဝကကြီးများ
- သာဗေ့အီများအနက် ဟဒီးဆ်ပညာရှင်များ၊ သမိုင်းပညာရှင်ကြီးများ(အေမာမ်ဝါကေ့ဒီ၊ အေမာမ် အိဗ်နေ့ အိစ်ဟားက်) စသည်ဖြင့်

### (၇) အမည်နာမ

စီရသ် ၊ မဂါဇီ

### (၈) မှီငြမ်းကိုးကားချက်

- ကျမ်းမြတ်ကုရ်အာန်
- ဟဒီးဆ်တော်များ
- ဆွဟာဗာကြီးတို့၏ ဆင့်ပြန်ချက်များ
- သာဗေ့အီတို့၏ ခိုင်လုံသော ဆင့်ပြန်ချက်များ
- နောက်ပိုင်းပညာရှင်တို့ရဲ့ မှန်ကန်တိကျသော စီရသ်ကျမ်းကြီးများ

## ၁။ နားလည်မှတ်သိ နဗီ အတ္ထုပ္ပတ္တိ

➢ **ကိုယ်တော်ﷺမပွင့်ပေါ်မီ-**

ဂျာဟေလီယသ် (အမိုက်ခေတ်၊ အမှောင်ခေတ်၊ အသိပညာကင်းမဲ့သည့်ခေတ်၊ လူ့ယဉ်ကျေးမှုကင်းမဲ့သည့်ခေတ်)

➢ **မျိုးရိုးစဉ်ဆက်-**

အရဗ်တွင် အကြီးကျယ်ဆုံး၊ သမိုင်းအခမ်းအနားဆုံး မျိုးနွယ်ကိုရိုင်ရှ်

**ဖခင်-** အဗ်ဒုလ္လာဟ် (ကိုရိုင်ရှ်မျိုးနွယ်ဝင်)

**မယ်တော်-** အာမေ့နဟ်

➢ **မွေးဖွားခြင်း-**

ဆင်နှစ်၊ ရဗီအွလ်အောက်ဝလ် (၉)ရက်၊ တနင်္လာနေ့၊ ခရစ်နှစ်(၅၇၁)ခု၊ ဧပြီလ (၂၂)ရက်။

➢ **နို့တိုက်ကျွေးခြင်း-**

မိခင် (၂)ရက်၊ ဆိုဝိုင်ဗဟ်رضي الله عنهاသခင်မ (ရက်အချို့)၊ ဟလီမဟ် رضي الله عنها သခင်မ (၂)နှစ်ကျော်

သက်တော် (၄)နှစ်အရွယ် - ရင်တော်ခွဲခံရ

➢ **ရင်တော်ခွဲခံရသည့် အကြိမ် - (၄)ကြိမ်**

၁။ (၄)နှစ်သားတွင်

၂။ အရွယ်မရောက်မီ

၃။ နဗီဘွဲ့ထူး ချီးမြှင့် မခံရမီ

၄။ မိအ်ရားဂျ် ကောင်းကင်ဘုံခရီးမစတင်မီ

➢ **သက်တော် (၆)နှစ်တွင်-**

မိခင်ကွယ်လွန်ခဲ့သည်။ အဖိုးဖြစ်သူ အဗ်ဒုလ်မွသ်သွလိဗ်က တာဝန်ယူခဲ့သည်။

➢ **သက်တော် (၈)နှစ်တွင်-**

အဖိုးဖြစ်သူ အဗ်ဒုလ်မွသ်သွလိဗ်ကွယ်လွန်ခြင်း၊ ဦးလေး ဖြစ်သူ အဗူသွာလိဗ်က တာဝန်ယူခဲ့သည်။ ဆိတ်ကျောင်းခဲ့သည်။

➢ **သက်တော် (၁၂)နှစ်တွင်-**

စီးပွားရေး၊ ကူးသန်းရောင်းဝယ်ရေးခရီး စတင်ခဲ့သည်။ ဆီးရီးယားသို့ ဦးလေးဖြစ်သူ အဗူသွာလိဗ်နှင့် လိုက်ပါသွားခဲ့သည်။

**သက်တော်(၂၀)တွင်-**

ဖေ့ဂျားရ်(ကျူးကျော်စစ်ပွဲ)နှိမ်နှင်းရေးတွင် ပါဝင်ခဲ့သည်။

ဖေ့ဂျားရ်စစ်ပွဲသည် ကိုယ်တော်ﷺ သက်တော် (၁၄)နှစ်တွင် စတင်ခဲ့ပြီး၊ သက်တော် (၂၀)မှသာ ပြီးဆုံးခဲ့သည်။

- **သက်တော် (၂၅)တွင်-**

ခဒီဂျာ(ရ)သခင်မနှင့် အိမ်ထောင်ပြုခဲ့သည်။ အလ်ကာစင်မ်၊ ဇိုင်နပ်၊ ရိုကိုင်ယဟ်၊ အွမ္မေ့ကူလ်ဆူးမ်၊ ဖွာသွေ့မဟ်နှင့် အဗ်ဒုလ္လာဟ် သခင်တို့ မွေးဖွားခဲ့သည်။

- **သက်တော် (၄၀)တွင်-**

နဗူဘွဲ့ထူး ချီးမြှင့်ခြင်းခံခဲ့ရသည်။ ပထမဆုံး ဝဟီကျရောက်ခဲ့သည်။ အမျိုးသားများတွင် အဗူဗက်ရ်(ရ)သခင်၊ အမျိုးသမီးတို့တွင် ခဒီဂျာ(ရ)သခင်မ၊ ကလေးသူငယ်များတွင် အလီ(ရ) သခင်၊ ကျွန်များတွင် ဇိုင်ဒ်ဗင်န်ဟာရေ့ဆဟ်(ရ)သခင်တို့က ပထမဆုံး အီမာန်ယူခဲ့ကြသည်။

- **သက်တော် (၄၃)နှစ်တွင်-**

ပေါ်တင် အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်ခဲ့သည်။

- **သက်တော် (၄၅)နှစ်တွင်-**

ဟဗ်ရှာ (အီသီယိုးပီးယား၊အဗီဆီးနီးယား)သို့ ပထမဆုံး အကြိမ် ဟစ်ဂျ်ရသ်(ပြောင်းရွှေ့မိန့်)ပေးခဲ့သည်။

➢ **သက်တော် (၄၆)တွင်-**

ဟာဗ်ရှာ (အီသီယိုးပီးယား၊ အဗီဆီးနီးယား)သို့ ဒုတိယအကြိမ် ဟာစ်ဂျ်ရည်(ပြောင်းရွှေ့မိန့်)ပေးခဲ့သည်။

➢ **သက်တော် (၄၇)တွင်-**

အဗူသွာလိဗ် လျှိုမြောင်တွင် (၃)နှစ်ကြာ အဆက်အသွယ် ဖြတ်ခံခဲ့ရသည်။

➢ **သက်တော် (၅၀)တွင်-**

ဦးလေးဖြစ်သူ အဗူသွာလိဗ်၊ ကိုယ်တော့် ချစ်ဇနီး ခဒီဂျာ رضي الله عنها သခင်မတို့ ကွယ်လွန်ခဲ့သည်။ သွာအိဖ်သို့ ကြွမြန်းခဲ့သည်။

➢ **သက်တော် (၅၁)တွင်**

မိအ်ရာဂျ်(ကောင်ကင်ဘုံခရီး)နှင်ခဲ့သည်။ မျိုးနွယ်စုပေါင်းများစွာနှင့်တွေ့ဆုံပြီး ၎င်းတို့အား အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်ခဲ့သည်။

➢ **သက်တော် (၅၂)တွင်-**

အကာဗဟ်တွင် မဒီနာမြို့မှ သစ္စာရှင်အချို့ ပထမအကြိမ် ဗိုင်အသ်ပြုသစ္စာနှံခဲ့သည်။ ၎င်းတို့အရေအတွက်မှာ (၁၂)ဦး ဖြစ်သည်။

- **သက်တော် (၅၃)ခု၊ ဟစ်ဂျ်ရီ(၁)ခုနှစ်တွင်-**

အကာဗဟ်တွင် မဒီနာမြို့မှ သစ္စာရှင်အမျိုးသား(၇၃)ဦး၊ အမျိုးသမီး(၂)ဦးတို့က ဒုတိယအကြိမ် ဗိုင်အသ်ပြုသစ္စာနံခဲ့ သည်။ ၎င်းတို့အရေအတွက်မှာ (၁၂)ဦးဖြစ်သည်။ ဗလီဝတ်ကျောင်းတော် ဆောက်လုပ်ခဲ့သည်။ မိခင်မွန် အာအေ့ရှာ ﷺ သခင်မနှင့် ထိမ်းမြားခဲ့သည်။ မဒီနာရွှေမြို့တော်သို့ ဟစ်ဂျ်ရသ်ပြုပြောင်းရွှေ့ခဲ့သည်။

- **သက်တော် (၅၄)၊ ဟစ်ဂျ်ရီ(၂)ခုနှစ်တွင်-**

ဗဒရ်စစ်ပွဲ၊ ဗနူကိုင်နို့ကာအ်း စစ်ပွဲများ ဖြစ်ပွားခဲ့သည်။
သမီးတော် ဖွာသွေ့မဟ် ﷺ အား အလီ ﷺ သခင်နှင့် ထိမ်းမြားပေးခဲ့သည်။ သမီးတော် ရိုကိုင်ယဟ် ﷺ သခင်မ ကွယ်လွန်ခဲ့သည်။

- **သက်တော်(၅၅)၊ ဟစ်ဂျ်ရီ(၃)ခုနှစ်တွင်-**

အိုဟိုဒ်စစ်ပွဲဖြစ်ပွားခဲ့သည်။ အရက် ဟရာမ်ဖြစ်ကြောင်း အမိန့်တော် ပြဋ္ဌာန်းခဲ့သည်။

➢ **သက်တော် (၅၆)၊ ဟစ်ဂျ်ရီ (၄)ခုနှစ်တွင်-**

ဗနူနဒွီးရ်၏ စစ်ပွဲဖြစ်ပွားခဲ့သည်။ ဟော့ဂျ်ားဗ်အမိန့်တော် ပြဋ္ဌာန်းလိုက်သည်။

➢ **သက်တော် (၅၇)၊ ဟစ်ဂျ်ရီ(၅)ခုနှစ်တွင်-**

အဟ်ဇာဗ်စစ်ပွဲ၊ ဗနူကိုရိုင်ဇွာစစ်ပွဲများ ဖြစ်ပွားခဲ့သည်။

➢ **သက်တော် (၅၈)၊ ဟစ်ဂျ်ရီ(၆)ခုနှစ်တွင်-**

ဟိုဒိုင်ဗီယဟ် ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုခဲ့သည်။

ဗနူလ်မွတ်စ်သွလိက် စစ်ပွဲ ဖြစ်ပွားခဲ့သည်။

➢ **သက်တော် (၅၉)၊ ဟစ်ဂျ်ရီ (၇)နှစ်တွင်-**

ခိုင်ဗရ် စစ်ပွဲဖြစ်ပွားခဲ့သည်။ အွမ္မရဟ် ကဇွာပြုလုပ်ခဲ့သည်။

➢ **သက်တော်(၆၀)၊ ဟစ်ဂျ်ရီ(၈)ခုနှစ်တွင်-**

မောင်ဝ်သဟ်စစ်ပွဲဖြစ်ပွားခဲ့သည်။ ဟိုနိုင်းန် စစ်ပွဲဖြစ်ပွားခဲ့သည်။ မက္ကာဟ်ရွှေမြို့တော်ကို အောင်နိုင်ခဲ့သည်။ မာရိယဟ် ؓ သခင်မထံမှ သားတော် အိဗ်ရာဟီးမ် ဖွားမြင်ခဲ့သည်။

➢ **သက်တော် (၆၁)၊ ဟစ်ဂျ်ရီ(၉)ခုနှစ်တွင်-**

သဗူးက်စစ်ပွဲဖြစ်ပွားခဲ့သည်။ သမီးတော် အွမ္မေ့ကုလ်ဆူးမ် ؓကွယ်လွန်ခဲ့သည်။ ဟဂ်ျဖရ်ဇ် ဖြစ်ခြင်း အမိန့်ကျရောက်ခဲ့

သည်။ အဗူဗက်ရ်ﷺသခင်၏ ဦးဆောင်မှုဖြင့် မုအ်မင်န်အချို့ ဟဂျ်ပြုခဲ့သည်။

- **သက်တော် (၆၂)၊ ဟစ်ဂျ်ရီ (၁၀)ခုနှစ်တွင်-**

ကိုယ်တော်မြတ်ﷺသည် ဟဂျ်ဂျသုလ်ဝဒါအ် နောက်ဆုံး နှုတ်ဆက်သည့် ဟဂျ် ပြုခဲ့သည်။

- **သက်တော် (၆၃)၊ ဟစ်ဂျ်ရီ (၁၁)ခုနှစ်တွင်-**

ရဗီအွလ်အောင်ဝ်ဝလ်လ၊ (၁၂)ရက်၊ တနင်္လာနေ့တွင် တမန်တော်မြတ်ﷺ ဝဖားသ်ဖြစ်ခဲ့သည်။ မိခင်မွန် အာအေ့ရှာﷺသခင်မ အခန်းထဲတွင် မြှုပ်နှံခဲ့သည်။

- **အနှစ်ချုပ်**

ကိုယ်တော့်နာမတော်များ - မုဟမ္မဒ် ၊ အဟ်မဒ်
ဂုဏ်ထူးဆောင်အမည်များ - အလ်ဟာရှိရ်၊ အလ်မာဟီ၊ အလ်အာကိဗ်၊ အလ် မုကဖ္ဖာ၊ တစ်ခွင်ကမ္ဘာ ကရုဏာပွားသူ။
နို့စို့ဖက် မောင်နှမများ (၄)ဦးရှိသည်။

- **သားတော်များ-**

အလ်ကာစင်မ်၊ အဗ်ဒုလ္လာဟ် ၊ အိဗ်ရာဟီးမ်

➢ **သမီးတော်များ-**

ဇိုင်နဗ်၊ ရိုကိုင်ယဟ်၊ အွမ္မေကုလ်ဆူးမ်၊ ဖွာသွေ့မဟ်رَضِيَ اللَّهُ عَنْهُنَّ

➢ **မြေးတော်များ-**

ဟာစံသခင်၊ ဟိုစိုင်းန်သခင်၊ မုဟ်စင်န်သခင်၊ ရိုကိုင်ယဟ် သခင်မ၊ ဇိုင်နဗ်သခင်မ၊ အွမ္မေ့ကုလ်ဆူးမ် သခင်မ

ဖခင်ဘက်မှ တော်စပ်သော **ဦးရီးတော်များ** (၁၁)ဦးရှိသည်။

**အဒေါ်များမှာ** (၆)ဦးရှိသည်။

➢ **ဆင်နွှဲခဲ့သော စစ်ပွဲများ-**

(၂၇)ပွဲ၊ (၉)ပွဲတွင် စစ်မက်ဖြစ်ပွားခဲ့သည်။

➢ **ဟဂ်ျနှင့်အွမ္မရဟ် ပြုလုပ်ခြင်း-**

ဟဂ်ျဖရ်ဇ်ဖြစ်ပြီးနောက် တစ်ကြိမ်၊ အွမ္မရဟ် (၄)ကြိမ် ပြုလုပ်ခဲ့သည်။

➢ **သက်တော်-**

(၆၃)နှစ်၊ နဗီမဖြစ်မီ နှစ်ပေါင်း(၄၀)၊

နဗီရစူလ်ဖြစ်ပြီး နှစ်ပေါင်း(၂၃)နှစ်၊

မက္ကာဟ်ရွှေမြို့တော်တွင် (၁၃)နှစ်၊

မဒီနာရွှေမြို့တော်တွင် (၁၀)နှစ်၊

➢ **ကြင်ယာတော် (၁၁)ပါး မုအ်မင်နီတို့၏ မိခင်မွန်များ-**

၁။ ခဒီဂျာ ဗင်န်သေ့ ခိုဝိုင်လိဒ် ﵂

၂။ စောင်ဝ်ဒဟ် ဗင်န်သေ့ ဇမ်အဟ် ﵂

၃။ အာအေ့ရှာဟ် ဗင်န်သေ့ အဗီဗက်ရ် ﵂

၄။ ဟဖ်ဆွာ ဗင်န်သေ့ အိုမရ် ﵂

၅။ ဇိုင်နဗ်ဗင်န်သေ့ ဂျဟာရ်ှ ﵂

၆။ အွမ္မေ့စလမဟ်(ဟင်န်ဒ်ဗင်န်သေ့ ဝဟာဗ်) ﵂

၇။ အွမ္မေဟာဘီဘာဟ် ရမ်လဟ်ဗင်န်သေ့အဗီစွတ်ဖ်ယာန် ﵂

၈။ ဂျိုဝိုင်ရိယဟ် ဗင်န်သေ့ ဟာရိဆ် ﵂

၉။ ဆွဖီယဟ် ဗင်န်သေ့ ဟိုယိုင်ယ် ﵂

၁၀။ မိုင်မူနဟ် ဗင်န်သေ့ ဟာရိဆ် ﵂

၁၁။ ဇိုင်နဗ် ဗင်န်သေ့ ခိုဇိုင်မဟ် ﵂

➢ **ကျွန်မများ-**

ကိုယ်တော်မြတ်ﷺ၏ ကျွန်မနှစ်ဦးရှိသည်။

၁။ မာရီယဟ် အလ်ကိဗ်သွီယဟ်﵂(အိဗ်ရာဟီမ်း သခင်၏ မိခင်)

၂။ ရိုင်ဟာနယ်ဗင်န်သေ့ ဇိုင်ဒ် رضي الله عنها

➢ **ကိုယ်တော့်မုအ်ဂျေဇာ (သဘာဝလွန် တန်ခိုးစွမ်းရည် များ)**

၁။ကျမ်းမြတ်ကုရ်အာန်

၂။ ဟဒီးဆ်တော်များ

၃။ လကို နှစ်ခြမ်းခွဲခြင်း

၄။ အရှင်မြတ်၏ အသိပေးမှုဖြင့် အကွယ်ကိစ္စများအား ပြောပြ ခြင်း။

၅။ ကိုယ်တော် လက်ချောင်းလေးများကြားမှ ရေများပန်း ထွက်လာခြင်း။

၆။ တိရိစ္ဆာန်များ၊ သက်မဲ့များနှင့်စကားပြောခြင်း။

၇။ အရှင်မြတ်အလိုတော်ဖြင့် ရောဂါသည်များအား ပျောက် ကင်းစေခြင်း။

## ၂။ တစ်ခွင်ကမ္ဘာကရုဏာပွားသူ (၁)

မြင့်မြတ်တော်မူသောအလ္လာဟ်အရှင်မြတ်က ကိုယ်တော်ﷺကို **(ရဟ်မသ်- ကရုဏာပြယုဂ်)**လို့ ကင်ပွန်းတပ်ထားပါတယ်။

တစ်ခွင်ကမ္ဘာ ကရုဏာပွားဖို့ စေလွှတ်ခဲ့ပါတယ်။ ကိုယ်တော်ရဲ့ လမ်းစဉ်၊ ကိုယ်တော်ရဲ့ စီရင်၊ ကိုယ်တော့်ရဲ့ ကိုယ်ကျင့်တရား အားလုံးတို့ကို ကရုဏာဖြန့်ချိရာအဖြစ် စီမံပေးခဲ့ပါတယ်။

အလ္လာဟ်အရှင်မြတ်က ကိုယ်တော်မြတ်ﷺကို မိုးခုနစ်ထပ်အထက်မှ ((ငါအရှင်မြတ်သည် အသင်တမန်တော်အား တစ်ခွင်ကမ္ဘာကရုဏာပွားသူအဖြစ်စေလွှတ်တော်မူခဲ့ကြောင်း))ထုတ်ပြန်တော်မူခဲ့ပါတယ်။ (စူရဟ် ဟဂ်ျ (၂၂)၊ အာယသ် (၁၀၇))

ဒါ့ကြောင့် မြတ်ကိုယ်တော်ရဲ့အပြင်ခန္ဓာနဲ့ အတွင်းသန္တာတို့ဟာ ကရုဏာပွားလျက်ရှိနေပါတယ်။ ကိုယ်တော့်ရဲ့ကျင့်မူရာများ၊ နှုတ်မှ ခြွေသော ရွှေစကားများဟာ လည်း ကရုဏာနှောလျက် ရှိနေပါတယ်။ မြတ်ကိုယ်တော်ဟာ အွမ္မသ်အတွက် ကရုဏာလက်ဆောင်ပါ။ မိုးကောင်းကင်က သက်ဆင်းလာတဲ့ အရှင့်ဆုလာဘ်တစ်ခုပါ။

ဒါကြောင့်လည်း အရှင်မြတ်က မြတ်ကိုယ်တော်ကို ကျမ်းမြတ်ကုရ်အာန်မှာ " အသင့်တို့ထံ အသင်တို့ထဲက ရစူလ်တမန်တော်မြတ်ကြွ မြန်းခဲ့ပြီ။ အသင်တို့ ဒုက္ခဖြစ်မှာကို မခံစားနိုင်တဲ့ ရစူလ်၊ အသင်တို့ တရားလမ်းမှန်ရစေဖို့ ဆန္ဒအာသီသ ပြင်းပြတော်မူသော ရစူလ်၊ မုအ်မင်န်တို့ပေါ် အထူးကရုဏာထားတော်မူသော ရစူလ်ဖြစ်ပေတယ်။"

ဆိုပြီး ခမ်းခမ်းနားနား ဂုဏ်ပြုပေးခဲ့တာပါ။ (စူရဟ် သောင်ဗဟ်(၉)၊ (၁၂၈))

မြင့်မြတ်တော်မူသော အရှင်မြတ်က ကိုယ်တော့်ကို မုအ်မင်န် ကာဖိရ် မခွဲခြားဘဲ ကရုဏာပွားပေးဖို့ စေလွှတ်ခဲ့ပါတယ်။ အဟိတ် တိရိစ္ဆာန် တောတောင်မကျန်ဝေနေယျအပေါင်း၊ အမျိုးသား၊ အမျိုးသမီး မကျန်၊ ကြီးငယ်မချန်၊ နာခံသူ ၊ အပြစ်ကျူးလွန်သူ အားလုံးတို့အပေါ် မေတ္တာဝတ်ရုံ လွှမ်းခြုံပေးဖို့ စေလွှတ်ခဲ့တာပါ။

မြင့်မြတ်တော်မူသော အရှင်မြတ်က "အရှင့်ဘက်တော်မှ စီးဆင်းလာသော မေတ္တာကရုဏာစွမ်းတို့ကြောင့် ကိုယ်တော်ဟာ မိမိအပါးတော်ရှိသူများပေါ် သက်ညှာ ထောက်ထားနေရခြင်းဖြစ်ပါတယ်။ ကိုယ်တော်သည် ကြမ်းတမ်းသောသူ (လူမှုဆက်ဆံရေး၌) ခက်ထန်ကြမ်းကြုတ်သောသူ ဖြစ်ခဲ့ပါမူ ထိုသူတို့သည် ကိုယ်တော့်အပါးမှ ကစဥ့်ကလျား ထွက်ခွာသွားကြမည်သာ"။ လို့ မိန့်ဆိုထားပါတယ်။ (အားလေ့အင်မ်ရားန်(၃)၊ ၁၅၉)

ကိုယ်တော်မြတ်ﷺဟာ ကိုယ်၊ နှုတ်၊ နှလုံး ဤသုံးပါးလုံးနဲ့ လောကတစ်လွှား ကရုဏာပွားဖို့ ဖိတ်ခေါ်ခဲ့ပါတယ်။ ကိုယ်တော့် နှလုံးအိမ်မှ အွမ္မသ်ပေါ် မေတ္တာချောင်းတစ်ခု တသွင်သွင် စီးဆင်းလျက်ရှိခဲ့ပါ တယ်။ ကိုယ်တော့် အပြုံးပန်းတွေမှာ မုဒိတာ ဝေဖြာလျက်ရှိပါတယ်။ စိတ်ဘဝင်ကို သိမ်းယူနိုင်စွမ်းရှိပါတယ်။ ကိုယ်တော့်ရဲ့

မိန့်ခွန်းတော်များဟာ စိတ်ဝိညာဉ်များအတွက် အမြိုက်ဆေးဖြစ်ပါတယ်။

ကိုယ်တော့်ရဲ့ တားမြစ်ချက်၊ အမိန့်ပေးချက် အားလုံးတို့ဟာလည်း ကရုဏာပေါ် အခြေခံကာ သိမ်မွေ့ခြင်းနှင့် လွယ်ကူမှုကို ရှေ့ရှုပါ တယ်။ **အမိန့်ပေးခြင်း**တွေဟာလည်း အသင့်ကို မြတ်ကိုယ်တော်အချစ် များ တိုးပွားစေပြီး ကိုယ်တော့်ချစ်စိတ်နဲ့ လိုက်နာချင်စိတ်တွေ အပြည့် ထည့်ပေးပါတယ်။ **တားမြစ်ချက်**တွေဟာလည်း ပညာသားပါးလွန်းတဲ့အတွက် ရှောင်ကြဉ်လိုစိတ်တွေကို ဖြစ်ပေါ်စေပါတယ်။ ကိုယ်တော်ﷺ ဟာ မိမိအွမ္မသ်အတွက် **မဟာကရုဏာရှင်** ဖြစ်ပါတယ်။

လူသားတို့အပေါ် သက်ညှာထောက်ထား ကရုဏာပွားသူကိုလည်း အရှင်မြတ် ကရုဏာထားပေးဖို့ အောက်ပါအတိုင်း တောင်းဆုပြုပေးခဲ့ပါတယ်။ "အိုအရှင်၊ ကျွန်ုပ်အွမ္မသ် သားတို့၏ တာဝန်ယူနေသူများမှ ၎င်းတို့အပေါ် ခက်ခဲစေသူရဲ့ ဘဝကို ခက်ခဲကြမ်းတမ်းစေတော် မူပါ။

ကျွန်ုပ်အွမ္မသ်အရေး တာဝန်ယူပေးစဉ် ၎င်းတို့အား နူးညံ့သိမ်မွေ့စွာ ဆက်ဆံသူအား အရှင်မြတ်လည်း နူးညံ့သိမ်မွေ့စွာ ဆက်ဆံတော်မူပါ။ (မွတ်စ်လင်မ်ကျမ်း)

အွမ္မသ်အပေါ် ကိုယ်တော်မြတ် ﷺ ရဲ့ ကရုဏာ ပြယုဂ်တစ်ခုမှာ

ကိုယ်တော်ဟာ အွမ္မသ်အတွက် လွယ်ကူချောင်လည်သော၊ သိမ်မွေ့နူးညံ့သော လမ်းစဉ်များကို ရှာဖွေပေးတော်မူခြင်းဖြစ်ပါတယ်။

အဗေဒသ် ခဝပ်မှုတွင်ဖြစ်စေ....။ ပမာဆိုရသော် အွမ္မသ်ဒုက္ခဖြစ်မည်ကို စိုးရိမ်တော်မူပြီး အရော်နမားဇ်ကို စောလျင်စွာ ဝတ်ပြုတော်မူခြင်း၊ တစ်ရက် ညဥ့်နက်မှ အရော်နမားဇ်ဝတ်ပြုဖြစ်ခဲ့ပါတယ်။ ဗလီအတွင်းရှိ ဆွဟာဘအချို့မှာလည်း အိပ်စက်သွားခဲ့ရာ ကိုယ်တော်မြတ်ﷺက "အမှန်တော့ အွမ္မသ်ခက်ခဲမည်ကို မစိုးရိမ်ရသော် ဒီအချိန်ကို အရော်ရဲ့အခိကချိန်ပြုလုပ်လိုက်ချင်ပါတယ်။"လို့မိန့်ကြားခဲ့ပါတယ်။

မွတ်စ်လင်မ်ကျမ်း

လမြတ်ရမ်ဇာန်မှာ အရှင်မြတ်အတွက် သီးသန့်နမားဇ် ဝတ်ပြုခဲ့ပါတယ်။ နှစ်ည၊ သုံးညခန့် ဝတ်ပြုပြီးချိန် ဆွဟာဗာအချို့ပါ စုရုံးပါဝင်လာကြရာ စတုတ္ထနေ့မှာ ဝတ်ပြုဖို့ မထွက်လာတော့ပါဘူး။

**ဘာကြောင့်ပါလဲ....။**

လမြတ်ရမ်ဇာန်မှာ မိမိသဘောဆန္ဒနဲ့ဝတ်ပြုလိုက်တဲ့ ဒီနမားဇ် အွမ္မသ်အပေါ် ဖရဇ်မပြုမနေရ တာဝန်တစ်ရပ်မဖြစ်သွားစေချင်လို့ပါ။" (ဗိုခါရီ၊ မွတ်စ်လင်မ်ကျမ်း)

အမှန်တော့ ကိုယ်တော်မြတ်ﷺဟာ အွမ္မသ်ရဲ့လောကီ၊ လောကုတ္တရာ နှစ်ဖြာလုံးအရေးမှာ ကြင်နာမှုတွေ လွှမ်းခြုံပေးခဲ့တာပါ။ အွမ္မသ်ကို သိမ်မွေ့နူးညံ့ဆုံးသော လမ်းစဉ်ကို လျှောက်လှမ်းစေခဲ့ပြီး၊ အလွယ်ကူဆုံး လမ်းစဉ်များကို ပြသပေးသနားတော်မူခဲ့ တာပါ။

ကိုယ်တော်မြတ်ﷺ၏ အကြီးကျယ်ဆုံး ကရုဏာ ပြယုဂ်တစ်ခုကတော့ ကိုယ်တော်ဟာ ကျွန်တော်တို့အားလုံးကို ရှင်းလင်းလှတဲ့ လမ်းပေါ်မှာ ထားပေးခဲ့တာပါ။

ထိုလမ်းစဉ်ကနေ ပျက်စီးလိုသူမှအပ အခြားမည်သူမှ မလွဲချော်ပါဘူး။ အကောင်းဟူသရွေ့ကို ချန်လှပ်ခြင်းမပြုဘဲ လမ်းညွှန်တော်မူပေးခဲ့ပြီး၊ အဆိုးဟူသမျှကလည်း သတိပေးတော်မူခဲ့ပါတယ်။ ပြီးပြည့်စုံလှတဲ့ ဆုံးမခြင်းတွေနဲ့ ဆုံးမတော်မူခဲ့ပြီး၊ အရှင့်အမိန့်တော် အလုံးစုံကို ပို့ချပေးခဲ့ပါတယ်။ တာဝန်ကျေပွန်တော်မူခဲ့ပါတယ်။

ကျွန်ုပ်တို့ကို လမ်းမှန်ပေါ် တင်ပေးဖို့အတွက် သက်စွန့်ဆံဖျားကြိုးစားတော်မူခဲ့ပါတယ်။ မှန်ကန်တိကျလှတဲ့ သာသနာ့ဗိမာန်မှာ ကျွန်ုပ်တို့ကို စံမြန်းစေခဲ့ပါတယ်။ ငရဲဘုံသားတို့ သွားရာလမ်းတိုင်း ကနေ သတိပေး ရှောင်ရှားစေခဲ့ပါတယ်။

အရှင်မြတ်က ကိုယ်တော့်အကြောင်းခံနဲ့ ကျွန်ုပ်တို့အားလုံးကို ငရဲမီးကနေ လွတ်ငြိမ်းချမ်းသာခွင့်ချီးမြှင့်ခဲ့ခြင်း၊ အမှောင်တွင်းမှ အလင်း တန်းဆီခေါ်ထုတ်ပေးခြင်း၊ သာယာဖြောင့်ဖြူးသောလမ်းကို ပြသခြင်း တို့ဟာ ချစ်နဗီ ﷺရဲ့ ကရုဏာ ပြယုဂ်ပင် မဟုတ်ပါလော့....။

## ၃။ တစ်ခွင်ကမ္ဘာ ကရုဏာပွားသူ (၂)

ကျွန်ုပ်တို့အားလုံးရဲ့ အသိဉာဏ်မဲ့တဲ့ဘဝကို သိရှိလာစေဖို့၊ လမ်း မှားနေခြင်းကို လမ်းမှန်ရလာစေဖို့၊ မမြင်နိုင်ခြင်းကို မြင်လာနိုင်စေဖို့၊ မကြားနိုင်ခြင်းကို ကြားလာနိုင်စေဖို့ ကြိုးပမ်းပေးခဲ့ခြင်းဟာ ချစ်နဗီ ﷺရဲ့ ကရုဏာ ပြယုဂ်ပင် မဟုတ်ပါလော့....။

ကိုယ်တော်မြတ် ﷺဟာ ကျွန်ုပ်တို့ နှလုံးသားအမှောင်တွင်းကို အလင်းခွင်းပေးတဲ့ **လမင်းစန္ဒာ**ပါ။ ကျွန်ုပ်တို့ ဘဝတံခါးဝမှာ နေခြည် တွေမှန်မှန် ဆွတ်ဖြန်းပေးတော်မူတဲ့ သူရိယနေမင်းကြီးပါပဲ။

ဒါတင်မကသေးပါဘူး...ကေယာမသ်နေ့၊ဟရှရ်နေ့တွေမှာလည်း ကျွန်ုပ်တို့ အားလုံးအပေါ် အုပ်မိုးပေးနေတဲ့ ကရုဏာ မိုးတိမ်တိုက်ပါ။ ကမ္ဘာ့တရားခွင်နေ့မှာ အသနားခံပေးနိုင်မည့် အခွင့်ထူးကို ဆွတ်ခူးရရှိ မည်ဖြစ်ပြီး အားလုံးအတွက် အသနားခံပေးဦးမှာပါ။

“အို..အရှင်၊ ကျွန်တော်မျိုးရဲ့ အွမ္မသ်သားများကို သနားတော်မူ ပါ။ ကျွန်တော်မျိုးရဲ့ အွမ္မသ်သားများကို သနားတော်မူပါ။” လို့ တသွင် သွင် တောင်းဆိုသမှု ပြုနေမှာပါ။ ဒူးထောက် လက်မြှောက်ပြီး ငိုကြွေး နေမှာပါ။

မွတ်စ်လင်မ်ကျမ်းလာ အဗ်ဒုလ္လာဟ်ဗင်န် အမ်ရ်ဗင်န်အားစ္စ် သခင်ရဲ့ ဆင့်ပြန်ချက်အရ “အရှင်မြတ်က ဂျိဗ်ရအီးလ် သခင်ကို အသင် မုဟမ္မဒ်ဆီသွားပါ။ အရှင်မြတ်က ကိုယ်တော့်ရဲ့ အွမ္မသ်သူ/ အွမ္မသ်သား

များကိစ္စနဲ့ပတ်သက်ပြီး ကိုယ်တော့်စိတ်တိုင်းကျ စီမံခွင့်ပေးလိုက်ပါပြီ၊ ၎င်းတို့အရေးနဲ့ ပတ်သက်ပြီး ကိုယ်တော့်ကို စိတ်ဒုက္ခ မဖြစ်စေရပါ”လို့ ပြောကြားစေမှာပါ။

**ကိုယ်တော်မြတ် ﷺ ရဲ့ ကရုဏာပြယုဂ်တစ်ခု ဆွဲထုတ်ကြည့်ကြပါစို့**

- ဒီမှာ ကိုယ်တော့်ကို ဒုက္ခမျိုးစုံပေးခဲ့တဲ့ ရန်သူတွေပါ..
- ကိုယ်တော့်ကို ဆဲရေးတိုင်းထွာခဲ့ကြတယ်။
- အဆက်အသွယ်တွေဖြတ်ခဲ့ကြတယ်။
- အစာရေစာတွေ ဖြတ်ခဲ့ကြတယ်။ ဆွေမျိုးဖြတ်ခဲ့ကြတယ်။
- နှင်ထုတ်ခဲ့ပါတယ်။
- ကိုယ်တော့်ရဲ့ ဖိတ်ခေါ်မှုတွေကို ခါးသီးစွာ တုန့်ပြန်ခဲ့ပါတယ်။
- မျက်နှာတော်ကို ဒဏ်ရာ ရစေခဲ့ပါတယ်။
- သွားတော် မြေခစေခဲ့ပါတယ်။ သွေးမြေကျစေခဲ့ပါတယ်။
- ကိုယ်တော့်ကို လုပ်ကြံဖို့ အမျိုးမျိုး ကြိုးစားခဲ့ကြပါတယ်။
- သို့ပေမယ့်လည်း အားလုံးကို ကရုဏာနဲ့ လွှမ်းခြုံပေးခဲ့ပါတယ်။

ရန်သူတွေနဲ့ပတ်သက်ပြီး “အိုအရှင်မြတ်... ကျွန်တော့်အမျိုးသားတို့ ကိုသနားတော်မူပါ၊ သူတို့ခမျာ မသိရှာကြလို့ပါ။”လို့ တောင်းဆုပြုပေးတဲ့ ပုဂ္ဂိုလ်မျိုး သမိုင်းတလျှောက် အသင်တို့ ကြားဖူးပါသလား။

မိခင်မွန် အာအေရှာ ﵂သခင်မ ဆင့်ပြန်တော်မူပါတယ်။ “ ယဟူဒီ အုပ်စုတစ်စုဟာ ကိုယ်တော်မြတ် ﷺ နဲ့ လာရောက်တွေ့ဆုံဖို့ခွင့်တောင်းပါတယ်။ ပြီးတော့ သူတို့က السام عليك **(အသင့်အပေါ် သေခြင်းတရား**

**ဆိုက်ရောက်ပါစေ)**လို့ နှုတ်ခွန်းဆက် သဃောင်ယောင်နဲ့ စော်ကားခဲ့ပါတယ်။ ကျွန်မကတော့ သီးမခံနိုင်တော့ဘဲ "သေခြင်းတရားနဲ့ ကရုဏာအပေါင်းမှဝေးစေတဲ့ကပ် အသင်တို့အပေါ်သာ ဆိုက်ရောက်ပါစေ"လို့ ပြောချလိုက်တယ်။

ကိုယ်တော် ﷺ က "အို...အာအေရှာ၊ အရှင်မြတ်ဟာ သိမ်မွေ့တော်မူသော အရှင်မြတ်ဖြစ်ပါတယ်။ ကိစ္စရပ်တိုင်းမှာ နူးညံ့သိမ်မွေ့ခြင်းကို နှစ်သက်တော်မူပါတယ်။" လို မိန့်ကြားပါတယ်။ ကျွန်မကလည်း "သူတို့ မိုက်ရိုင်းနေတာ ကိုယ်တော်သခင် ကြားတော်မူပါသလား?လို့ မေး လျှောက်တဲ့အခါ ကိုယ်တော်က "ငါကိုယ်တော် က အသင်တို့အပေါ်လိုပဲ ဖြေကြားလိုက်ကြောင်း၊ ၎င်းတို့ဆဲဆိုသည့်အတိုင်း ပြန်လည် မဖြေကြား နိုင်ကြောင်း မိန့်ကြားခဲ့ပါတယ်။

၎င်းတို့ကို အပြစ်မဆိုခဲ့ပါဘူး၊ ရိုင်းစိုင်းမှုကို ရိုင်းစိုင်းခြင်းနဲ့ အဖြေမပေးခဲ့ပါဘူး။ အပြစ်လည်း မပေးခဲ့ပါဘူး။ ကိုယ်တော် ﷺဟာ နားလည် ပေးခဲ့ပါတယ်။ ၎င်းတို့နဲ့ နူးညံ့စွာပဲ ဆက်ဆံပေးလိုက်ပါတယ်။

မိခင်မွန် အာအေရှာသခင်မကို " အို..အာအေရှာ၊ အရှင်မြတ်က သိမ် မွေ့တော်မူတယ်။ သိမ်မွေ့ခြင်းကို နှစ်သက်တော်မူတယ်။ ကြမ်းတမ်းမှု ကြောင့် မချီးမြှင့်လိုက်တဲ့အရာတွေကို နူးညံ့သိမ်မွေ့ခြင်းကို အကြောင်း ပြုပြီး ချီးမြှင့်လေ့ရှိပါတယ်။"လို့ မွတ်စ်လင်မ်ကျမ်းမှာ ဖော်ပြထားပါ တယ်။

ကိုယ်တော့်ရဲ့ ဖိတ်ခေါ်ခြင်း၊ အမိန့်ပေးခြင်း၊ တားမြစ်ခြင်း စတဲ့ ကိစ္စအဝဝဟာ သိမ်မွေ့ နူးညံ့ခြင်းပေါ် အခြေခံပါတယ်။ "နူးညံ့သိမ်မွေ့ ခြင်းရဲ့ ဝေစုမရသူဟာ ကောင်းခြင်းများစွာနဲ့ လွဲချော်ရပါတယ်"။ "နူးညံ့ သိမ်မွေ့ခြင်းရှိတဲ့ အရာတိုင်းဟာ ပသာဒရှိလှပြီး၊ နူးညံ့မှုပျောက်ဆုံး သွားသောအရာတိုင်းဟာ အကျည်းတန် ရပါတယ်။" လို့ မွတ်စ်လင်မ် ကျမ်းမှာ နဗီ့ မိန့်ခွန်း လာရှိထားပါတယ်။

နူးညံ့သိမ်မွေ့ခြင်းကို အစ္စလာမ့်တန်ဖိုးများအနက် တန်ဖိုးတစ်ခု အဖြစ်လည်းကောင်း၊ အိမ်တွင်း၊ လူ့ပတ်ဝန်းကျင်အတွင်း၊ အမျိုးသား ထု တစ်ရပ်လုံးအတွင်း နူးညံ့သိမ်မွေ့ခြင်းအား ကရုဏာပြယုဂ်များ အနက် အလှပဆုံး ပြယုဂ်တစ်ခုအဖြစ် သတ်မှတ်ပေးတော်မူပါတယ်။

ကိုယ်တော့်လမ်းစဉ်တိုင်းမှာ လူတို့အပေါ် သက်ညှာထောက်ထား ခြင်းများ ပြန့်နှံ့လျက် ရှိနေပါတယ်။ အွမ္မာသ်ကိုလည်း ထာဝရသိမ်မွေ့ ခြင်းကို အဖော်ပြုထားဖို့ သွန်သင်တော်မူပါတယ်။

# ၄။ တစ်ခွင်ကမ္ဘာ ကရုဏာပွားသူ (၃)

အမျိုးသမီးတွေအပေါ် ကိုယ်တော်မြတ် ﷺရဲ့ သနားကြင်နာ ယုယခြင်း သင်ခန်းစာတွေကိုတော့ ကမ္ဘာ့တက္ကသိုလ်ကြီးတွေ ကျောင်းတော်ကြီးတွေမှာ တစ်သက်လုံး သင်ကြားနေထိုက်ပါတယ်။

ကိုယ်တော်မြတ်ﷺဟာ အမျိုးသမီးတွေအပေါ် အကြင်နာဆုံး၊ ကရုဏာ အထားဆုံး၊ သိမ်မွေ့နူးညံ့စွာ အဆက်ဆံဆုံးသော ပုဂ္ဂိုလ် ဖြစ်ပါတယ်။ သမီးမိန်းကလေးများကို စာနာထောက်ထားဖို့၊ ကြင်နာဖို့ ဖိတ်ခေါ်တော်မူခဲ့ပါတယ်။

သမီးရတနာတွေရဲ့ ဝတ္တရားတွေ၊ အခွင့်အရေးတွေ၊ ရပိုင်ခွင့်တွေကို ထိန်းသိမ်းစောင့်ရှောက်ပေးဖို့မှာကြားတော်မူပါတယ်။

“သမီးမိန်းကလေးတွေ ထွန်းကားပြီး သူတိုနဲ့ ပတ်သက်သမျှ ဒုက္ခအဝဝကို အပြုံးမပျက် တာဝန်ယူပေးသူအတွက် ငရဲမီးကနေ ထိန်းသိမ်းကာကွယ်မှုကို ရရှိပါလိမ့်မယ်။” လို့ အမိန့်တော်ရှိခဲ့ပါတယ်။

အမျိုးသမီးထုကို သနားကြင်နာကြဖို့ အလေးအနက်မှာကြားတော်မူခဲ့ပါတယ်။ သိရ်မေ့ဇီ၊ အိဗ်နေ့မာဂျာစတဲ့ ဟဒီးဆ်ကျမ်းကြီးတွေမှာ “အသင်တို့ အမျိုးသမီးတို့အတွက် ကောင်းရာ ကောင်းကျိုးကိုသာ ဆောင်ရွက်ကြပါ။ မုချ သူမတို့ဟာ အသင်တို့ထံမှာ အားနွဲ့သူများ၊ မှီခိုသူများဖြစ်ကြပါတယ်။” ကြင်နာထိုက်တဲ့ အဖိုးတန်ရတနာများ ဖြစ်ကြပါတယ်။လို့ မိန့်ကြားခဲ့ပါတယ်။

အိမ်ထောင်ဦးစီးအား မိမိအိမ်သူအိမ်သားအပေါင်းကို သနားကြင်နာဖို့၊ ယုယဖို့၊ မိသားစုအတွင်း မေတ္တာကွန်ယက်များ ဖြန့်ကျက်ဖို့ ဖိတ်ခေါ်တော်မူခဲ့ပါတယ်။ “အရှင်မြတ်ဟာ မိသားစုတစ်စုကို ကောင်းစားစေချင်တယ်ဆိုရင် သူတို့အချင်းချင်းအတွင်း ကြင်နာခြင်းများကို ထည့်ပေးသနားတော်မူပါတယ်”လို့လည်း သတင်းကောင်း ပါးခဲ့ပါတယ်။ (မွတ်စ်နဒ်အဟ်မဒ်ကျမ်း)

ကိုယ်တော်မြတ် ﷺ ကိုယ်တော်တိုင်ကလည်း ဇနီးကြင်ယာများအပေါ် များစွာကြင်နာတော်မူကြောင်း အလုပ်နဲ့ သက်သေ ပြသနိုင်ခဲ့ပါတယ်။

အနတ်စ် ﷺ သခင်က အကြောင်းအရာလေးတစ်ခု ဆင့်ပြန်ပါတယ်။ “တစ်ရက် ကိုယ်တော်မြတ် ﷺ ဟာ ခရီးတစ်ခုကို ကုလားအုပ်နဲ့ သွားနေပါတယ်။ ကိုယ်တော်နှင့်အတူ အန်ဂျရှားအမည်ရှိ မဟူရာရောင် ကျွန်တစ်ဦးလည်း ပါခဲ့ပါတယ်။ အန်ဂျရှားသခင်က ကုလားအုပ်မြူး တေးသွားများကို မာန်အပြည့်ဖြင့် သီဆိုနေရာ ကိုယ်တော်မြတ် ﷺ က “အို. .အန်ဂျရှား ဖြေးဖြေးဆိုပါကွယ်၊ ဖန်သားပြင်ကို သက်ညှာထောက်ထား ပါ။” (ကုလားအုပ်ဟာ မြူးထူးပြီး အလျင်အမြန်သွားခြင်းဖြင့် ကုလား အုပ်ပေါင်းကားပေါ်ရှိ ကိုယ်တော့်ကြင်ယာတော် စိတ်ထိခိုက်သွားမည်ကို သွယ်ဝိုက်အလင်္ကာနဲ့ (ဖန်သားပြင်များကို သက်ညှာထောက်ထားပါ)လို့ ဆိုလိုလိုက်ခြင်းဖြစ်ပါတယ်။)

(ဗိုခါရီနှင့်မွတ်စ်လင်မ်ကျမ်း)

ကိုယ်တော်မြတ်ﷺဟာ အမျိုးသမီးတွေရဲ့ စိတ်နေသဘောထားများ၊ သဘာဝတရားများကို အလွန်ပင် ထောက်ထားတော်မူသောကိုယ်တော်ဖြစ်ပါတယ်။ နမားဇ်တွင်ပင်ဖြစ်လင့်ကစား အမျိုးသမီးများရဲ့ ခံစားချက်များကို ထောက်ထားတော်မူခဲ့သည်။

အဗူကသာဒဟ်ﷺသခင်က ကိုယ်တော့်ထံမှ အဖြစ်အပျက် တစ်ခုကို တစ်ဆင့်ပြန်လည်ပြောပြပါတယ်။ “တစ်ခါတလေ ငါကိုယ်တော်နမားဇ်ကို ခပ်ရှည်ရှည် ဝတ်ပြုဖို့ ရည်ရွယ်လိုက်တယ်။ သို့ပေမယ့် ကလေးငိုသံ ကြားပြီး မိခင်စိတ်ပူမှာ စိုးရိမ်လို့ နမားဇ်ကို အတိုချုံး ဝတ်ပြုလိုက်ရတာမျိုးရှိပါတယ်”လို့ ကိုယ်တော်မြတ် ﷺမိန့်ကြားခဲ့ပါတယ်။ (ဗိုခါရီကျမ်း)

လောကမှာ အမျိုးသမီးထုကြီးအတွက် အပြောနဲ့မနော ထပ်တူကြပြီး ကြင်နာတတ်တဲ့ ဖခင်သဖွယ်ရပ်တည်ပေးသူ ကိုယ်တော့်အပြင် ရှိပါသေးသလား။ မိမိဇနီးကြင်ယာတွေ အပေါ် အကောင်းဆုံး ဆက်ဆံခဲ့တဲ့ ခင်ပွန်းပီသသူ ကိုယ်တော်မှတစ်ပါး ရှိနိုင်ပါသေးသလား။

အမျိုးသမီးထုကြီးအတွက် မုဒိတာပွားတဲ့ အစ်ကိုအရင်းသဖွယ်၊ အလုပ် အကျွေးပြုပေးတဲ့ သားအရင်းသဖွယ်၊ သက်ညှာထောက်ထား၊ ပြုစုယုယပြီး တရား လမ်းမှန်ပြပေးတဲ့ ခေါင်းဆောင်ကောင်းသဖွယ် ကိုယ်တော့်အပြင် အခြားပြဖို့ နမူနာရှိနေသေးရင် ယူခဲ့ပေးစမ်းပါလို့ သမိုင်းကို သစ္စာတည်ပြီး ရဲရဲကြီး စိန်ခေါ်ပါရစေ။

အမျိုးသမီးထုကြီးအပေါ် ကရုဏာလွှမ်းခြုံပေးဖို့ ကြွမြန်းလာတဲ့ ကိုယ်တော်မြတ် ﷺရယ် .....

ကိုယ်တော့်အပေါ် အရှင်မြတ်ဘက်တော်မှ ငြိမ်းချမ်းသာယာခြင်းနဲ့ ကရုဏာ မေတ္တာမိုးများ ရွာသွန်းဖြိုးတော်မူပါစေလို့ ကျွန်ုပ်တို့ တောင်းဆုပြုပါရစေ....။

# ၅။ တစ်ခွင်ကမ္ဘာ ကရုဏာပွားသူ (၄)

ကိုယ်တော်မြတ်ﷺရဲ့ ကရုဏာသဝဏ်လွှာဟာ ကမ္ဘာတစ်ဝှမ်းမှာ ရပ်မသ်အကြင်နာမိုးတွေ ရွာသွန်းဖြိုးပေးခဲ့ပါတယ်။

မဟာဦးနှောက်ပိုင်ရှင်ကြီးတွေကို တင်ပြကြည့်တဲ့အခါ သူတို့ဟာ ပျူပျူငှာငှာလက်ခံလိုက်ကြပါတယ်။ ဒါကြောင့်လည်း ကိုယ်တော်ယူဆောင်လာတဲ့ အစ္စလာမ့်သဝဏ်လွှာ ၊ ကိုယ်တော်ပို့ချပေးတဲ့ သာသနာတော်ထဲကို ဆယ်စုနှစ်နှစ်ခုအတွင်းမှာ အုပ်စုလိုက်၊ အုပ်စုလိုက် ဝင်ရောက်လာကြတာပါ။ များစွာသော မျိုးနွယ်စုတွေဟာ ကိုယ်တော့်ရဲ့ အကြင်နာ အေးရိပ်ဆာယာအောက်မှာ ခိုလှုံလာကြတာပါ။

**ဘာကြောင့်ပါလဲ....။** ကိုယ်တော့်ရဲ့ အကြင်နာတရားဟာ တခြားသူတွေရဲ့ အကြင်နာတွေနဲ့ ကွဲပြားခြားနားနေလို့ပါ။ ဒီအကြင်နာဟာ ခြောက်ပြစ်ကင်း သဲလဲစင်ပြီး အရောင်အဆင်းကင်းတဲ့ အဖြူရောင် မေတ္တာသက်သက် ဖြစ်နေလို့ပါ။ အမှားကိုတိုက်ဖျက်ရေးနဲ့ အမှန်တရား တည်ဆောက်ရေးအနိမ့်အမြင့်တွေကြားမှာ ချည့်နဲ့ သေးသိမ်ခြင်းကင်း တဲ့ ထာဝရ အကြင်နာရပ်ဝန်းပါ။

ဒါ့ကြောင့်လည်း အပြစ်ကျူးလွန်သူတွေကို ပြစ်ဒဏ်ခတ်တဲ့နေရာမှာတောင် အကြင်နာမေတ္တာတွေ ယိုဖိတ်နေတာပါ။ ဒီလိုပြစ်ဒဏ်ခတ်ရာမှာတောင် အကြင်နာရှေ့ထားတဲ့ ကိုယ်တော့်ကို မြင့်မြတ်တော်မူသော အရှင်မြတ်က စူရဟ်နူးရ် ၊ အာယသ် (၂)မှာ ဇေနာကျူးလွန်သူတွေကို အပြစ်ပေးဖို့ အမိန့်ရှိတော်မူပြီး “ သူတို့နှစ်ဦးကိစ္စကို နူးညံ့စွာ

မဆောင်ရွက်ဖို့ သိမ်မွေ့စွာ မကိုင်တွယ်ဖို့လေးနက်စွာ မိန့်ကြားလိုက်တာပါ။

အာဏာနဲ့ အကြင်နာ၊ ပြတ်သားခြင်းနဲ့ သိမ်မွေ့ခြင်း၊ အင်အားရှိခြင်းနဲ့ ရက်ရောခြင်း၊ အရှိန်အဝါရှိခြင်းနဲ့ ရိုးကျိုးခြင်းတို့ကဲ့သို့ ဆန့်ကျင် ဖက် ဝိသေသများအကြား သဟဇာတရှိစွာ ပေါင်းစပ်နိုင်ခဲ့သော မြတ်ကိုယ်တော်ﷺရဲ့အပေါ် အရှင်မြတ်ဘက်တော်က ငြိမ်းချမ်းသာယာမှု များနဲ့ မေတ္တာမိုးများ ရွာသွန်းဖြိုးတော်မူပါစေ။ ဒီလိုဟန်ချက်ညီအောင် ပေါင်းစပ်ဆောင်ရွက်နိုင်ခြင်းဆိုတာလည်း အရှင်မြတ်ကိုယ်တော်တိုင် က ကိုယ်တော့်ရဲ့ ဝိသေသတွေကို ပြည့်ဝစေခဲ့လို့ပါ။

ကိုယ်တော့်ရဲ့ ကိုယ်ကျင့်တရားတွေကို ပြည့်စုံကုံလုံစေခဲ့လို့ပါ။ ကိုယ်တော့်ရဲ့ အတွင်းစိတ်ကို စင်ကြယ်စေခဲ့ပြီး ကိုယ်တော့်ရဲ့ နာမ်ပိုင်းကို သန့်စင်ပေးခဲ့လို့ပါ။

سماك ربّك رحمةً فنشرتَها

في العالمين محبةً وسلامًا

ورحمت حتّى الطير في وكناتهِ

وبقيت تغرسُ في القلوب وئامًا

سالتْ دموعُهم لفقدكَ كلّهم

فكأنّهم لّما رحلتَ يتامَى

ذكراكَ تَبقى في الحياة رسالةً

وتظلّ في دنيا الخلود إمامًا

صلى الله عليه وسلم

ဖန်ဆင်းရှင်က အသင့်ကို ကရုဏာပြယုဂ်လို့ အမည်ပေးခဲ့တော့ ကိုယ်တော်ကလည်း ဒီကရုဏာရဲ့ သင်းရနံ့တွေကို ချစ်ခြင်းမေတ္တာ အပြည့်၊ ငြိမ်းချမ်းမှုအပေါင်းနဲ့ လောကတစ်ခွင် ကြိုင်သင်းစေခဲ့ပါတယ်။

အသိုက်ထဲမှာရှိနေတဲ့ ငှက်ကလေးတွေကိုပင်မချန်ကိုယ်တော် ကြင်နာယုယခဲ့ပါတယ်။ ကိုယ်တော်ဟာ အဖန်ဆင်းခံတွေရဲ့ နှလုံးသား ထဲမှာ ချစ်ခြင်းမေတ္တာတွေကိုလည်း စိုက်ပျိုးပေးခဲ့ပါသေးတယ်။

ကိုယ်တော့်ကို ဆုံးရှုံးလိုက်ရလို့ အားလုံးရဲ့ မျက်လုံးအစုံကနေ မျက်ရည်တွေ ယိုစီးလာရပါတယ်။

ကိုယ်တော် ဝဖားသ်ဖြစ်ပြီးတဲ့နောက်မှာတော့ သူတို့လေးတွေ အားလုံးဟာ ဖတဆိုးကလေးဘဝကို ရောက်ရှိသလို ခံစားနေရပါတယ်။

ကိုယ်တော့်ကို သတိရတသခြင်းဟာ ကမ္ဘာတည်သရွေ့ အလွမ်း သဝဏ်လွှာအဖြစ် ကျန်ရှိနေမှာပါ။

ထာဝရစံမြန်းရမယ့် တမလွန်ရဲ့ ဘုံနန်းမှာတော့ ကိုယ်တော် ဟာ အားလုံးရဲ့ ရှေ့ဆောင်အဖြစ်ရှိနေဦးမှာပါ။ ﷺ

ဒေါက်တာ အာအိဇ်အလ်ကရ်နီရဲ့ ملهم العالم ကျမ်းတွင် ရေးသားချက်ကို ဆီလျော်စွာ ပြန်ဆိုသည်။

## ၆။ ကလေးသူငယ်များအား ကရုဏာထားသူ

ကလေးသူငယ်များအပေါ် ကိုယ်တော်မြတ် ﷺ ရဲ့ ကြင်နာခဲ့ခြင်း ပုံရိပ်တွေဟာလည်း စာဖွဲ့ထိုက်ပါတယ်။ ရင်သွေးငယ်တို့အပေါ် ကိုယ်တော်မြတ်ﷺရဲ့ ကြည်အေးတဲ့ မေတ္တာချောင်း တစ်စင်း တသွင်သွင်စီးဆင်းလျက်ရှိနေခဲ့ပါတယ်။ သူတို့လေးတွေရဲ့ နုငယ်တဲ့ နှလုံးအိမ်ကို ကြင်နာခြင်းတွေ၊ ကောင်းမှုပြုခြင်းတွေ၊ သိမ်မွေ့ခြင်း တွေနဲ့ အုပ်မိုးပေးထားတော်မူပါတယ်။ သူတို့လေးတွေရဲ့ ဝိညာဉ်ကို လမ်းမှန်တရားတွေ၊ ထိုးထွင်းသိမြင်ခြင်းတွေနဲ့ ဖြည့်တင်းပေးသနားတော်မူပါတယ်။

မှန်ကန်တိကျတဲ့ ဟဒီးဆ်တော်တွေကို ကိုးကားပြီး ကိုယ်တော်မြတ်ﷺရဲ့ ကလေးသူငယ်တွေအပေါ် ကြင်နာခဲ့တဲ့ နမူနာ အချို့ကို တင်ပြလိုက်ရပါတယ်။

တစ်ရက် ကိုယ်တော်မြတ် ﷺဟာ မြေးတော် အိုမာမားဗင်န်သေ့ ဇိုင်နဗ်သခင်မလေးကို ပွေ့ချီပြီး ဖရဇ်နမားဇ် ဝတ်ပြုတော်မူခဲ့ပါတယ်။ စဂျ်ဒဟ်ပြုလုပ်ချိန်မှာတော့ ဘေးမှာချထားပြီး ပြန်လည်ရပ်တဲ့အခါ ချီတော်မူလိုက်ပါတယ်။ မြေးတော်လေးကို ကြင်နာယုယမှု ပြသခြင်းနဲ့ အတူ မိခင်အပေါ်လည်း ကရုဏာမိုး ရွာသွန်းဖြိုးပေးလိုက်တာပါ။ နမားဇ်ချိန်နီးကပ်လာချိန် သမီးတော် ဇိုင်နဗ်ﷺသခင်မဟာ အိမ်မှုကိစ္စတွေနဲ့ လုံးပမ်းနေရတယ်။

ကိုယ်တော်မြတ်ﷺက မြေးလေးကို ထိန်းပေးပြီး သမီးတော်ကိုလည်း သက်သာစေခဲ့တယ်၊ မြေးလေးကိုလည်း နမ္ဗီမေတ္တာ ခံစားစေခဲ့တာပါ။

အွမ္မသ်ကို ဦးဆောင်နေတဲ့ ကိုယ်တော်၊ နမားဇ်မှာ ရှေ့ဆောင် အဖြစ်ဝတ်ပြုပေးနေတဲ့ ကိုယ်တော်ဟာ အင်မတန်လှပတဲ့ ကိုယ်ကျင့် သီလပိုင်ရှင်ပါလား....။ အတွေးထဲကနေ ဘယ်တော့မှ ပျောက်ဆုံးသွား မှာမဟုတ်တဲ့ ရှင်သန်နေမယ့် မြင်ကွင်းလေးပါလား...။

အွမ္မသ်အတွက် ကလေးတွေကို ကြင်နာဖို့၊ မေတ္တာလက်ဖြင့် ကမ်းလင့်ပေးဖို့အတွက် လက်တွေ့ကျကျ သင်ကြားပေးခဲ့တဲ့ သင်ခန်း စာ တစ်ခုကိုလည်း တင်ပြပါရစေ။

လူထုကို တရားဟောကြားနေတော်မူရင်း ရင်သွေးငယ်တို့ အပေါ် ကိုယ်တော်ရဲ့ ကြင်နာစိတ်က မင်န်ဘရ် (တရားဟောပလ္လင်ပေါ် ကနေ) ဆင်းသက်စေခဲ့ပါတယ်။ ပြီးတော့ မြေးတော်နှစ်ပါးဖြစ်တဲ့ ဟစံ ﵁နဲ့ ဟိုစိုင်းန် ﵁တို့ကို ပွေ့ချီတော်မူပါပြီး အနီးအပါးမှာ ထားတော်မူခဲ့ ပါတယ်။

ဘိုရိုင်ဒါး﵁ ပြောပြပါတယ်။ "ကိုယ်တော်မြတ်ﷺဟာ ကျွန်တော်တို့ကို တရားဟောကြားနေခဲ့ပါတယ်။ ရုတ်တရက် မြေး တော် နှစ်ပါးဖြစ်တဲ့ ဟစံ﵁နဲ့ ဟိုစိုင်းန်﵁တို့ဟာ အနီရောင်အင်္ကျီ လေး များ ဝတ်ဆင်ပြီး လမ်းလျှောက်လာရာ ခလုပ်တိုက်လိုက် ပြန်ထလိုက် ဖြစ် နေခဲ့ပါတယ်။ ကိုယ်တော်မြတ်ﷺဟာ မင်န်ဗရ်ပေါ်ကနေ ဆင်း

တော်မူ ၍ မြေးတော်နှစ်ပါးကို ပွေ့ချီတော်မူပြီး အနားမှာ ထားလိုက်ပါတယ်။" (အဗူဒါဝူးဒ်ကျမ်း)

ကိုယ်တော်မြတ်ﷺဟာ ကလေးသူငယ်လေးတွေကို နမ်းတော်မူခဲ့ပါတယ်။

မှန်ကန်တဲ့ ဟဒီးဆ်တော် တစ်ပုဒ်မှာ ကိုယ်တော်မြတ် ﷺ ဟာ ဟစံ؃ကိုနမ်းနေခိုက် အနီးမှာ အက်ရအ်ဗင်န်ဟာဗိဆ်သမီမီ؃သခင် ထိုင်နေပါတယ်။ သူက ကိုယ်တော့်ကို "ကျွန်တော့်ဆီမှာ သားသမီး (၁၀) ယောက်တောင် ရှိပါတယ်။ ဒီနေ့ထိ တစ်ယောက်ကိုမှ ကျွန်တော် မနမ်း ဖူးပါဘူး" လို့ ပြောကြားတဲ့အခါ ကိုယ်တော်မြတ်ﷺက သခင့် ကို ကြည့်တော်မူပြီး " သနားကြင်နာမှုမရှိတဲ့သူဟာ အသနားခံရဖို့လည်း မရှိဘူး" လို့ မိန့်ကြားခဲ့ပါတယ်။ (ဗိုခါရီနှင့် မွတ်စ်လင်မ်ကျမ်း)

ကလေးသူငယ်များအပေါ် ချစ်ခြင်းမေတ္တာပေးကမ်းတဲ့ နေရာမှာ မျှမျှတတ ပေးဝေတော်မူခဲ့တဲ့ ကိုယ်တော်မြတ် ﷺ ရဲ့ ကရုဏာ ပြယုဂ်ကို ကြည့်ကြည့်ပါဦး...

အသဲမှာဖြစ်တဲ့ ဟစံသခင်နဲ့ သူကောင်းပြုထားတဲ့ ကျွန်ရဲ့ သားတော်မောင် အိုစာမားဗင်န်ဇိုင်ဒ် သခင်တို့နှစ်ပါးကြားမှာ မျှတစွာနဲ့ ချစ်ခြင်းမေတ္တာပြသခဲ့ပါတယ်။ နှစ်ဦးလုံးကို ကိုယ်တော်ဟာ ပေါင်ပေါ်မှာ ထိုင်စေခဲ့ပါတယ်။ အိုစာမား؃ ကိုယ်တိုင် မိမိကိုယ်တွေ့ ဖြစ်ရပ် တစ်ခုကို ပြောပြခဲ့ပါတယ်။ "ကိုယ်တော်မြတ် ﷺဟာ ကျွန်တော့်ကို

ပွေ့ပြီး ပေါင်ပေါ်မှာ ထိုင်စေခဲ့ကာ အခြားပေါင်တစ်ဖက်ပေါ်မှာ ဟာစံ ﷺ သခင်ကို ထိုင်စေခဲ့ပါတယ်။ ထို့နောက် ပေါင်တော် နှစ်ဖက်လုံးကို ပူး ကပ်လိုက်ပြီး "အိုအရှင်မြတ်... ဤသူငယ်နှစ်ဦးကို သနားကြင်နာ တော် မူပါ။ ကျွန်တော်မျိုးသူတို့နှစ်ဦးကို အင်မတန်ကြင်နာပါတယ်" လို့ တောင်းဆုပြုပေးခဲ့ပါတယ်။ (ဗိုခါရီကျမ်း)

ကလေးသူငယ်တွေနဲ့ ကိုယ်တော်မြတ် ﷺ ရဲ့ ဖြစ်ရပ်လေးတွေ၊ ကလေးသူငယ်တွေကို ကိုယ်တော်မြတ် ﷺရဲ့ အလေးထားပုံ၊ ကျီစယ် ခဲ့ပုံ၊ နွေးထွေးမှု ပေးခဲ့ပုံတွေဟာ လောကမှာ ကလေးသူငယ် ထိန်းသိမ်း စောင့်ရှောက်ရေး၊ သူတို့လေးတွေကို ကြင်နာမှု ပေးရေးအတွက် ပြည့်စုံ ကုံလုံလှတဲ့ လမ်းစဉ်အဖြစ် ရပ်တည်နေပါတယ်။ အာမခံချက်တွေ ပေး နေပါတယ်။

မည်သည့် ရှုထောင့်၊ မည်သည့် အခန်းကဏ္ဍကနေမဆို ဒီကိုယ် တော့်ကို လေ့လာကြည့်တဲ့အခါ၊ ဒီကိုယ်တော်မြတ်ﷺရဲ့ ဘဝသက် တမ်းကို လေ့လာကြည့်တဲ့အခါ အသင့်နှလုံးသားကို ချစ်ခြင်းမေတ္တာ တွေ ဖြည့်တင်းပေးမှာ သေချာပါတယ်။

ဒီကိုယ်တော်နဲ့ ဆက်နွယ်မှုတွေကို ပိုမိုခိုင်မာစေပြီး ဒီလို တစ် ခွင်ကမ္ဘာ ကရုဏာပွားခဲ့တဲ့ ကိုယ်တော့်နောက်ကို လိုက်ဖို့ အဆင်သင့် ဖြစ်သွားမှာ အမှန်ပါပဲ....။

**အို..ကိုယ်တော်၊ ကိုယ်တော့်အတွက် ကျွန်တော့်တို့အသက် တွေ၊ မိဘတွေရဲ့ အသက်တွေကို စတေးပါတယ်။ ﷺ**

## ၇။ မိဘမဲ့ကလေးများနဲ့ မုဆိုးမများအပေါ်ကရုဏာထားခဲ့သော ကိုယ်တော်

အွမ္မသ်အပေါ် ကိုယ်တော်မြတ်ﷺရဲ့ ကရုဏာပြယုဂ်တွေ အနက် တစ်ခုကတော့ မိဘမဲ့ကလေးတွေ၊ မုဆိုးမတွေအပေါ် အလေး ထား ကြင်နာခဲ့ခြင်းပါပဲ။ သူတို့လေးတွေရဲ့ ကိစ္စအဝဝကို ၊ တာဝန်အရပ် ရပ်ကို ကိုယ်တော်မြတ်ﷺကိုယ်တိုင် ဦးစီးပြီး ဆောင်ရွက်ပေးခဲ့ပါတယ်။

ကမ္ဘာတည်သရွေ့ တစ်လောကလုံးကိုလည်း ဒီကိစ္စရပ်မှာ ပါဝင် အားဖြည့်ကြဖို့ အခုလို အားမာန်ပြည့်ဝတဲ့ မိန့်ခွန်းတော် ခြွေခဲ့ပါတယ်။

“ကိုယ်တော်ﷺဟာ မိမိရဲ့ လက်ညှိုးတော်နဲ့ လက်ခလယ်ကို ညွှန်ပြပြီး မိဘမဲ့ကလေးတွေကို တာဝန်ယူ ထိန်းသိမ်းစောင့်ရှောက်သူနဲ့ ငါကိုယ်တော်ဟာ ဂျန္နသ်ထဲမှ ဒီလက်ချောင်းနှစ်ချောင်းနီးကပ်၊ ပူးကပ် နေသလို နီးကပ်နေပါလိမ့်မယ်”။ (ဗိုခါရီကျမ်း)

မုဆိုးမတွေ၊ ဆင်းရဲသူ ဆင်းရဲသားတွေအတွက် ကြိုးစားပေးနေ သူတွေဟာ အရှင်မြတ်လမ်းတော်မှာ သက်စွန့်ဆံဖျား ကြိုးပမ်းကြတဲ့ မုဂျာဟိဒ်တွေ၊ နေ့မှာရိုဇာထားပြီး ညချမ်းမှာ တရားအားထုတ်ကြတဲ့ သူတော်စင်ကြီးတွေကဲ့သို့ ဖြစ်တယ်”လို့ တင်စား မိန့်ကြားခဲ့ပါတယ်။ (ဗိုခါရီ၊မွတ်စ်လင်မ်ကျမ်း)

ကိုယ်တော်မြတ်ﷺဟာ အားနွဲ့သူများကို အနီးမှာ ထားတော် မူ ပြီး နွေးထွေးမှု ပေးတော်မူပါတယ်။ သူတို့လေးတွေကို သနားကြင်နာ ယုယတော်မူပြီး ကိစ္စရပ်တိုင်းမှာ ရှေ့တန်းတင်လေ့ရှိပါတယ်။

“ငါ့ကို အားနွဲ့သူတွေရှာပေးပါအုံး။ မင်းတို့တွေ ရိုဇီရိက္ခာတွေပေါ ကြွယ်ဝပြီး ရန်သူပေါ် အနိုင်ရနေခြင်းတွေဟာ သူတွေလေးတွေရဲ့ ကျေးဇူးကြောင့်ပဲ” လို မိန့်ကြားခဲ့ပါသေးတယ်။

မိဘမဲ့ကလေးတွေ၊ မုဆိုးမတွေကို မတရားညှင်းပမ်း နှိပ်စက်ခြင်းကနေ သတိပေးတော်မူခဲ့ပါတယ်။

အိမ်နေ့မာဂျဟ်ကျမ်း၊ မွတ်စ်နဒ်အဟ်မဒ်ကျမ်းလာ ဟဒီးဆ်တော်တစ်ပုဒ်မှာ မိန့်ကြားခဲ့ပါတယ် “အားနွဲ့သည့် အုပ်စုနှစ်စုဖြစ်သော မိဘမဲ့ကလေးများ၊ အမျိုးသမီးများ၏ ရပိုင်ခွင့်များ၊ ဝတ္တရားများအား ချိုးဖောက်ခြင်းကို အပြစ်ကြီးဖြစ်ပါတယ်”လို ငါကိုယ်တော် မိန့်တော်မူလိုက်ပြီ”။

وكم ام تظنك من حشاها

ولدت وفي معاطفها ربيتا

حللت محل نون العين منها

هتاف فؤادها دوما : فديتا

“မြောက်မြားစွာသော မိခင်တွေဟာ အသင့်ကို သူ့ဘဝရဲ့ အစိတ် အပိုင်းလိုပဲ မှတ်ယူတာပါ။ အသင်မွေးလာပြီးတဲ့ နောက်ပိုင်းမှာလည်း သူ့ရဲ့ အကြင်နာရင်ခွင်မှာ အသင်ဟာ ကြီးပြင်းခဲ့တာပါ။ အသင့်ကို တီတီတာတာပြောတတ်ဆိုတတ်တဲ့အဆင့်ထိ သူမကပဲ ပြုစုပျိုးထောင် ပေးတာပါ။ သူမရင်ခွင်ရဲ့ ထာဝရ ကြွေးကြော်သံကတော့ “သားလေး အတွက် ထာဝရစတေးပါရစေ” ဆိုတာလေးပါပဲ။ “

## ၈။ အားနွဲ့သူများအပေါ် ကရုဏာထားခဲ့တဲ့ ချစ်နဗီ ﷺ

ကိုယ်တော်မြတ်ﷺရဲ့ သူဆင်းရဲတွေအပေါ် ကြင်နာခဲ့ခြင်းနဲ့ ပတ်သက်ပြီး အဗ်ဒုလ္လာဟ်ဗင်န် အဗီအောင်ဖ်ဖာ﵁သခင်က ပြောပြပါတယ်။

"ကိုယ်တော်မြတ်ﷺဟာ အရှင်မြတ်ကို များစွာ သတိရတာသနေတော်မူပါတယ်။ အဟောသိက ကိစ္စအပေါင်းကို ရှောင်ကြဉ်ပါတယ်။ နမားဇ်ကို ရှည်ရှည်ဖတ်တော်မူပြီး၊ ခွသ်ဗာ တရားဟောကြားခြင်းကို ခပ် တိုတို ဆောင်ရွက်လေ့ရှိပါတယ်။ မုဆိုးမများ၊ သူဆင်းရဲများ၊ အားနွဲ့သူ များနဲ့အတူတကွ သွားလာခြင်းကို အောက်တန်းကျတဲ့ လုပ်ရပ်လို့ မထင် မြင်ပါဘူး။ သူတို့လေးတွေရဲ့ လိုအပ်ချက်ကို အစွမ်းကုန် ဖြည့်ဆည်း ပေးသနားတော်မူပါတယ်။" (နစာအီကျမ်း)

ကိုယ်တော်မြတ်ﷺရဲ့ ဖတဆိုးကလေးများအပေါ်၊ သူဆင်းရဲများအပေါ်၊ အားနွဲ့သူတို့အပေါ် ကြင်နာခဲ့တဲ့ပုံရိပ်တွေကို ဂဃနဏ လေ့လာသူအနေနဲ့ ကိုယ်တော် ﷺ ဟာ သူဆင်းရဲများ၊ အားနွဲ့သူများရဲ့ နဗီဖြစ်ကြောင်း ချက်ချင်း သက်သေထွက်ဆို လိုက်မှာသေချာပါတယ်။

ကိုယ်တော်မြတ် ﷺရဲ့ ဖိတ်ခေါ်ချက်တွေဟာလည်း ငရဲခံနေရသူတွေကို ကယ်တင်ခြင်း ပြယုဂ်တစ်ခုပါပဲ။

ကိုယ်တော်မြတ်ﷺဟာ လောကတစ်ခွင်မှာ ဖတဆိုးကလေးများရဲ့ ခေါင်းဆောင်တစ်ဦးဖြစ်တာကို ကျွန်တော် သက်သေခံပါတယ်။

ကိုယ်တော်ဟာ ငယ်စဉ်ကတည်းက ဖခင်အရိပ်ပျောက်ခြင်းရဲ့ ခါးသီးတဲ့ ဒဏ်ကို နားလည်ခဲ့ပြီးဖြစ်ပါတယ်။ ဒါ့ကြောင့်လည်း ဖတဆိုးကလေး တွေအပေါ် ကိုယ်တော့်ရဲ့ ကြင်နာခြင်းတွေဟာ အနှစ်သာရပြည့်ဝပြီး စာနာထောက်ထားမှု စံချိန်မီနေပါတယ်။ ငယ်စဉ်တောင်ကျေး ကလေး ဘဝကတည်းက စမ်းသပ်မှုအဖုံဖုံ၊ ဒုက္ခအစုံ၊ ဆင်းရဲနွမ်းပါး မှုဒဏ်များကို အလူးအလဲ ခံစားခဲ့ရပါတယ်။

ဒါကြောင့် ကိုယ်တော့်ရဲ့ နွမ်းပါးသူတွေအပေါ် သနားကြင်နာခြင်းဟာ အာနိသင် ပြည့်မောက်နေပါတယ်။ အားနွဲ့သူတွေအပေါ် ကိုယ်တော်ထားရှိတဲ့ မေတ္တာတွေဟာ ထာဝရ ရောင်ပြန်ဟပ်လျက်သား ရှိနေပါတယ်။

လက်အောက်ငယ်သားတွေ၊ ကိုယ့်ကို ပြုစုနေသူတွေ၊ ရိုးသားတဲ့ အလုပ်သမားတွေနဲ့ ပတ်သက်ပြီး ကိုယ်တော်ﷺဟာ အခုလို မှာတမ်း ခြွေခဲ့ပါတယ်။ “သူတို့တွေဟာ အသင်တို့ရဲ့ ညီနောင်တွေပါ၊ အရှင်မြတ် က အသင်တို့ရဲ့ စီမံကွပ်ကဲမှုအောက်မှာ သူတို့လေးတွေကို ထားပေးခဲ့ တာ။ ဒါ့ကြောင့် အသင်တို့စားတဲ့ အစားအသောက်ထဲကပဲ သူတို့ကို ကျွေးမွေးပါ။ အသင်တို့ ဝတ်ဆင်တဲ့အရာတွေထဲကပဲ သူတို့ကိုလည်း ဝတ်ဆင်ပေးပါ။ သူတို့ကို မနိုင်ဝန်တွေ မထမ်းစေပါနဲ့။ အသင်တို့ သူတို့ ကို တာဝန်တစ်ခုခု ပေးအပ်လိုက်ရင်လည်း ဖေးမကူညီပေးကြပါ။”

## ၉။ ပြုစုသူများအပေါ် ကရုဏာထားခဲ့တဲ့ မြတ်ကိုယ်တော်ﷺ

ကိုယ်တော်မြတ်ﷺဟာ အိမ်မှာရှိနေတဲ့ အခိုင်းအစေတွေ၊ အလုပ်သမားတွေကို သဘောထားကြီးစွာ ဆက်ဆံခဲ့ပါတယ်။ အထက်စီးကနေ ပြောဆိုတာတွေ၊ နှိမ့်ချဆက်ဆံခြင်းတွေကို ရှုံ့ရှာတော်မူခဲ့ ပါတယ်။ သူတို့လေးတွေကို ကိုယ့်ဘဝရဲ့ အစိတ်အပိုင်းတစ်ခု၊ အိမ်ရဲ့ မိသားစုတစ်ခုလို့ပဲ မှတ်ယူတော်မူခဲ့ပါတယ်။

ကိုယ်တော်မြတ်ﷺရဲ့ အစေခံတွေကို နူးညံ့သိမ်မွေ့စွာ ဆက်ဆံခြင်း၊ အကြင်နာတရားရင်မှာထားပြီး ဆက်ဆံခြင်းတွေအတွက် အကောင်းဆုံး နမူနာတွေထဲက တစ်ခုကို ကိုယ်တော့်ထံမှာ (၁၀)နှစ် (၁၀)မိုး နေထိုင်ပြုစုခဲ့တဲ့ အနတ်စ်ﷺသခင်က အခုလို ပြောပြ ပါတယ်။ "ကိုယ်တော်မြတ် ဟာ လူတို့အနက် အကောင်းဆုံးသော စာရိတ္တမွန်တွေ ကို ပိုင်ဆိုင်ထားပါတယ်။

တစ်ရက်ကျွန်တော့်ကို အလုပ်တစ်ခုအတွက် စေလွှတ်ခဲ့ရာ ကျွန်တော့်စိတ်ထဲမှာတော့ ကိုယ်တော်စေခိုင်းတာ ဖြစ်တဲ့အတွက် သွားဖို့ ဆုံးဖြတ်ထားပြီးသားပါ။ (သို့ပေမယ့် ကလေးသဘာဝအရ) ကိုယ်တော့်ကို "ကျွန်တော် မသွားပါရစေနဲ့လို့"ပြောခဲ့ပြီး ထွက်လာလိုက်ပါတယ်။ ဈေးလမ်းမှာ ကလေးတွေ ဆော့ကစားနေကြတာတွေ့တော့ ကျွန်တော်လည်း ဝင်ကစားနေလိုက်ပါတယ်။ ရုတ်တရက် ကိုယ်တော်မြတ်ﷺဟာ ကျွန်တော့်နောက်ကနေ ကျွန်တော်ခါးလေးကို ကိုင်လိုက်တယ်။ ကျွန်တော့်ကို ပြုံးပြုံးလေးကြည့်ပြီး "ဟေ့....အနတ်စ်လေး ၊

သားကို ကိုယ်တော်ခိုင်းတဲ့ နေရာသွားခဲ့ပြီလား။ ကျွန်တော်ကလည်း "အို..ကိုယ်တော် ကျွန်တော်အခုသွားပါပြီ အလ္လာဟ့်ရစူလ်" လို့ ဖြေကြား လိုက်ပါတယ်။

ကလေးရဲ့ နာမည်လေးကို ချစ်စနိုးခေါ်ပြီး၊ အပြုံးတွေနဲ့သာ ဆက်ဆံခဲ့ခြင်း၊ ကြန့်ကြာမှုတွေအပေါ် အပြစ်မတင်၊ အရေးမယူခဲ့ခြင်း တွေဟာ ကိုယ်တော့်ရဲ့ ကြင်နာခြင်းနဲ့ ခန္တီတရားထားခြင်းရဲ့ အကောင်း ဆုံး နမူနာတွေပါ။

ဒီကိုယ်ကျင့်တရားတွေထက် ပိုမိုကြီးကျယ်ကောင်းမွန်တဲ့ ကိုယ် ကျင့်တရား ရှိပါဦးမလား။ ဒီအကြင်နာတရားထက် ပိုမိုကျယ်ပြန့်တဲ့ အကြင်နာတရားရှိနိုင်ပါဦးမလား။

အနတ်စ်ﷺရဲ့ နောက်ထပ် ပြောပြချက်လေးကို ခဏတာရပ်ပြီး စဉ်းစားလေ့လာကြည့်ရအောင်...။

- "ကျွန်တော် ကိုယ်တော်မြတ်ﷺကို (၁၀)နှစ်တိတိ ဝတ်ကြီး ဝတ် ငယ်ပြုခဲ့ပါတယ်။ ကိုယ်တော်ဟာ ကျွန်တော့်ကို တစ်ခါမျှ "အို ကွာ" လို့တောင် မပြောခဲ့ဖူးပါဘူး။ တစ်ခုခုကို မလုပ်လိုက် လို့လည်း အသင်ဘာကြောင့်ဒါကို မလုပ်သေးတာလဲလို့ ဒေါသ နဲ့ မမေးခဲ့ဖူးပါဘူး။" (ဗိုခါရီ၊မွတ်စ်လင်မ်ကျမ်း)

စဉ်းစားကြည့်ပါ ကိုယ်တော်မြတ်ﷺဟာ ဘယ်ကိစ္စနဲ့ ပတ်သက်ပြီး တော့မှ အနတ်စ်သခင်ကို မငေါက်ခဲ့ပါဘူး။ မငြူစူခဲ့ပါဘူး။

တကယ်တော့ လူတစ်ယောက်ရဲ့ အခြေအနေဆိုတာ တသမတ်တည်း မရှိတတ်ပါဘူး။ စိတ်ဆိုးခြင်း၊ စိတ်ကောင်းခြင်း၊ ပျော်ရွှင်ခြင်း ဝမ်းနည်းခြင်း စတဲ့ အခြေအနေတွေကြားမှာ ရှိနေတာပါ။

သို့ပေမယ့်လည်း အခြေအနေတိုင်း၊ အချိန်အခါတိုင်း၊ နေရာတိုင်းမှာ ကိုယ်တော်ﷺဟာ အကြင်နာ ကရုဏာတွေကိုသာ ပြသခဲ့ပါတယ်။

## ၁၀။ သက်ကြီးရွယ်အိုများအပေါ် ကရုဏာထားခဲ့တဲ့ မြတ်ကိုယ်တော်ﷺ

ကိုယ်တော်မြတ်ﷺရဲ့ သက်ကြီးရွယ်အိုတွေအပေါ် ကြင်နာထောက်ထားခဲ့တဲ့ နောက်ထပ် ပုံရိပ်တစ်ခုကိုလည်း တင်ပြပါရစေ။

မုအားဇ်ဗင်န်ဂျဗလ်ﷺသခင်ကြီးဟာ မိမိအရပ်ဒေသမှာ လူတို့ရဲ့ အေမာမ်ရှေ့ဆောင်အဖြစ်ဆောင်ရွက်ခဲ့ပါတယ်။ (သခင်ဟာ အေရှာချိန်တွေမှာ ကေရာအသ်ရှည်ရှည်တွဲပါတယ်။ တစ်နေကုန်အလုပ်ကြမ်းတွေ လုပ်ခဲ့ရတဲ့အတွက် ပင်ပန်းနွမ်းနယ်နေတဲ့ ဆွဟာဘီတစ်ဦးကတော့ သခင့်ရဲ့ နောက်မှာ မရပ်နိုင်တော့ဘဲ တစ်ဦးတည်းနမားဇ်ကို အဆုံးသတ်လိုက်ပါတယ်။ ထိုဆွဟာဘဇာကို ကျန်ရှိနေတဲ့ ဆွဟာဘဇာကြီးတွေက အပြစ်တင်တော့ ဒီဆွဟာဘီက ဖြစ်ကြောင်းကုန်စင် ကိုယ်တော်မြတ်ﷺထံပါးမှာ လာရောက်လျှောက်ထားခဲ့ပါတယ်။)

ကိုယ်တော်မြတ်ﷺက မုအားဇ်သခင်ကို "အသင်ပြဿနာ မီးမွှေးသူလား"လို့ (၃)ကြိမ်တိုင်တိုင် မိန့်ကြားခဲ့ပါတယ်။ အသင့်အနေနဲ့ နမားဇ်မှာ **စူရဟ်အအ်လာ၊ စူရဟ်ရှမ်စ်၊ စူရဟ်လိုင်းလ်** စတဲ့ စူရဟ်တွေကို ဘာကြောင့်မတွဲသလဲလို့ မေးမြန်းပြီး "အသင့်နောက် လိုက်ဖတ်နေသူတွေထဲမှာ သက်ကြီးရွယ်အိုတွေလည်းပါဝင်ပါတယ်။ အားအင်ချည့်နဲ့သူတွေ၊ လိုအပ်ချက်ရှိနေသူတွေလည်း ပါဝင်နေပါတယ်"လို့ မိန့်ကြားခဲ့ပါတယ်။

ကိုယ်တော်အလွန်ချစ်မြတ်နိုးရတဲ့ မုအားဇ်ﷺကို အခုလို သတိပေးခြင်း၊ နမားဇ်မှာလည်း သက်ကြီးရွယ်အိုတွေကို ထောက်ထားဖို့ မိန့်

ကြားတော်မူခြင်းဟာ သက်ကြီးရွယ်အိုတွေအပေါ် ကိုယ်တော်မြတ်ﷺ ရဲ့ စာနာထောက်ထား ကြင်နာလေးစားခြင်းရဲ့ ပုံရိပ်တစ်ခုပင် မဟုတ်ပါလော။

ကိုယ်တော်မြတ်ﷺရဲ့ စီရသ်ကို ဂဃဏန လေ့လာသူ၊ ကိုယ်တော်မြတ်ﷺရဲ့ သင်ကြားပေးမှုတွေကို နှိုက်နှိုက်ချွတ်ချွတ်လေ့လာပြီး စီရသ်အလင်း ရင်မှာသွင်းသူတိုင်းဟာ ကိုယ်တော်ရဲ့ အကြင်နာတရားတွေကို မုချတွေ့ရှိရမှာပါ။

ကဗျာဆရာအဟ်မဒ်ရှောင်ဝ်ကီ က-

وإذا رحمت فأنت أم أو أب

هذان في الدنيا هما الرحماء

“ကိုယ်တော်မြတ်ﷺရဲ့ သနားကြင်နာမှုဟာ မိခင်ဖခင်တွေရဲ့ သနားကြင်နာမှုထက် ပိုနေပါတယ်။ သူတို့နှစ်ဦးရဲ့ အကြင်နာခရီးလမ်းဟာ လောကဒွန္နယာမှာပဲ ပြီးဆုံးသွားတာပါ။” လို့ စပ်ဆိုခဲ့ပါတယ်။

ကျွန်တော့် သဘောထားကတော့ “ကိုယ်တော်မြတ်ﷺရဲ့ အကြင်နာဟာ မိဘနှစ်ပါးရဲ့ အကြင်နာထက်ကို သာပိုပါတယ်။

ကိုယ်တော်ﷺဟာ ခန္ဓာကိုယ်အတွက်ပဲ မဟုတ်ဘဲ ကျွန်တော်တို့ရဲ့ ဝိညာဉ်အတွက်ပါ လမ်းပြဖခင်ကြီးပါ။ ဖခင်ကြီးက အသင့်ကို လောကအထိအရောက်ပို့ပေးခဲ့ပါတယ်။ မြတ်တမန်ﷺကတော့ အသင့်ကို ထာဝရ စံမြန်းရမယ့် ဂျန္နသ်ဆီ ပို့ဆောင်ပေးမှာပါ။

စိုးပိုင်တော်မူသော အရှင်မြတ်အနီးအပါးမှာ ခစားဖို့အတွက် အခွင့်လမ်းတွေ ဖန်တီးပေးမှာပါ။

အသင့်ရဲ့ ဖခင်ကြီးက အသင့်ခန္ဓာအတွက် ရိက္ခာတွေ ဖြည့်တင်းပေးဖို့ အကြောင်းခံဖြစ်နေတယ်ဆိုရင် ကိုယ်တော်မြတ်ﷺ ကလည်း အသင့်ရဲ့ ဘဝကို ကျမ်းမြတ်ကုရ်အာန် ဟဒီးဆ်တော်တွေနဲ့ ရှင်သန် လန်းဆန်းစေတာ မဟုတ်လား။ အသင့်ကို အရှင်မြတ်ပေးမယ့် ပြစ်ဒဏ် တွေကနေ အရှင့်ကရုဏာအားနဲ့ ကာကွယ်ပေးနေတာ မဟုတ်လား။ အသင့်ကို အရှင်မြတ်ချီးမြှင့်တဲ့ လင်းရောင်ခြည်နဲ့ တရားလမ်းမှန် ကို ပြသပေးနေတာ မဟုတ်လားလို့ မေးခွန်းထုတ်ပါရစေ။

ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ملهم العالم ကျမ်းတွင် ရေးသားချက်ကို ဆီလျော်စွာ ပြန်ဆိုသည်။

**၁၁။ အပြစ်ကျူးလွန်သူများအပေါ် ကရုဏာထားခဲ့တဲ့ မြတ်ကိုယ်တော် ﷺ**

ကိုယ်တော်မြတ်ﷺဟာ အပြစ်ကျူးလွန်သူကို သက်ညှာထောက်ထားခြင်း၊ မှားယွင်းချွတ်ချော်သူများအပေါ် ကြင်နာခဲ့ခြင်းရဲ့ အခမ်းနားဆုံး၊ အလှပဆုံးနဲ့ အကောင်းဆုံးနမူနာတွေ ကျွန်ုပ်တို့ကို ပြသတော်မူခဲ့ပါတယ်။

အရက်သောက်မိသူကို ဆွဟာဗီတစ်ပါးက မကောင်းပြောဆိုလိုက်တဲ့အခါ ကိုယ်တော်မြတ်ﷺက “ အသင်တို့ သူ့ကို မကျိန်ဆဲပါနဲ့။ အလ္လာဟ်အရှင့်ကစမ်၊ သူဟာ အလ္လာဟ်နဲ့ အလ္လာဟ့်ရစူလ်ကို (ဘယ်လောက်)ချစ်မြတ်နိုးနေလဲဆိုတာ ဒို့တတွေ မသိကြပါဘူး”လို့ မိန့်ကြားပြီး ပြစ်မှုကျူးလွန်သူကို အကြင်နာပေးခဲ့ပါတယ်။ (ဗိုခါရီကျမ်း)

ဆွဟာဗီတစ်ပါးက ဇေနာမှုကျူးလွန်မိသွားတဲ့ အမျိုးသမီးတစ်ဦးကို သူမ ပြစ်ဒဏ်ပေးခံနေရစဉ် မကောင်းပြောလိုက်တဲ့အခါ ကိုယ်တော်မြတ်ﷺက “သူမဟာ အင်မတန် အရည်အသွေးပြည့်မီပြီး စံချိန်မီတဲ့ သောင်ဝ်ဗဟ်ပြုလိုက်တာပါ။ (အရှင်မြတ်ထံ အမှားဝန်ချတောင်းပန်)လိုက်တာပါ။ သူမရဲ့ သောင်ဝ်ဗဟ်ကို မဒီနာမြို့မှာ ရှိနေတဲ့ အပြစ်ကျူးလွန်သူ (၇၀)ကို ခွဲဝေပေးလိုက်ရင် သူတို့ခွင့်လွှတ်ချမ်းသာရဖို့ လုံလောက်သွားလိမ့်မယ်”လို့ မိန့်ကြားခဲ့ပါတယ်။ (မွတ်စ်လင်မ်)

(ဒါကတော့ အပြစ်ကျူးလွန်သူတွေအပေါ် လောကမှာ ကိုယ်တော်မြတ် ﷺ ကြင်နာခဲ့တဲ့ ပုံရိပ်တွေပါ။)

အမှန်တကယ်တော့ အပြစ်ကျူးလွန်သူတွေအပေါ် ကိုယ်တော်မြတ်ﷺရဲ့ ကြင်နာခြင်းဟာ နောင်တမလွန်မှာပါ တည်ရှိနေဦးမှာပါ။ ဟာရှရ်ကွင်းပြင်မှာလည်း ဒီပုံရိပ်တွေကို ကျွန်ုပ်တို့ တွေ့မြင်ကြရဦးမှာပါ

ဗိုခါရီကျမ်းလာ ဆင့်ပြန်ချက်တစ်ရပ်မှာ ကိုယ်တော်မြတ်ﷺက "ကေယာမသ်နေ့မှာ ငါကိုယ်တော်ရဲ့ အသနာခံပေးမှုနဲ့ အထိုက်တန်ဆုံးသူဟာ စိတ်စေတနာဖြူစင်စွာနဲ့ لاإله إلا الله (အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားခဝပ်ကိုးကွယ်ခြင်း ခံထိုက်သူအလျဉ်းမရှိ"လို့ ပြောဆိုသူဖြစ်ပါတယ်"လို့ မိန့်ကြားခဲ့ပါတယ်။ ကလိမဟ်တော်ကို ရွတ်ဆိုထားပြီး ဟာရှရ်ကွင်းပြင်မှာ ရောက်ရှိလာမည့် သူအများစုဟာ အပြစ်နဲ့ မကင်းကြပါဘူး။

ဒီလိုပုဂ္ဂိုလ်တွေအပေါ်မှာ နှစ်ဘဝလုံး ကြင်နာပေးတဲ့ မြတ်ကိုယ်တော်ﷺရဲ့ အပေါ် ဒရူးဒ်မေတ္တာမိုးများ ရွာသွန်းဖြိုးတော် မူပါစေသား။

ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ملهم العالم ကျမ်းတွင်
ရေးသားချက်ကို ဆီလျော်စွာ ပြန်ဆိုသည်။

....................................

## ၁၂။ တိရိစ္ဆာန်များအပေါ် ကရုဏာထားခဲ့တဲ့ မြတ်ကိုယ်တော်ﷺ

ကိုယ်တော်မြတ်ﷺရဲ့ အကြင်နာတရားတွေဟာ လူတွေအတွက်ပဲ မဟုတ်ဘဲ ကျေးငှက် တိရစ္ဆာန်တွေအပေါ်မှာပါ လွှမ်းခြုံလျက်ရှိနေပါ တယ်။ တိရိစ္ဆာန်တွေရဲ့ မျက်နှာမှာ မီးပူကပ် အမှတ်အသားပြုခြင်းကို တားမြစ်တော်မူပါတယ်။

မွတ်စ်လင်မ်ကျမ်းလာ ဂျာဗိရ် ﷺသခင်ရဲ့ ဆင့်ပြန်ချက်တစ်ခုမှာ "ကိုယ်တော်မြတ် ﷺဟာ တိရိစ္ဆာန်တွေရဲ့ မျက်နှာကို ရိုက်ခြင်း၊ သူတို့ရဲ့ မျက်နှာကို အနာတရဖြစ်စေခြင်းတို့ကနေ တားမြစ်တော်မူပါတယ်"လို့ လာရှိထားပါတယ်။

မျက်နှာကိုအပူကပ်ပြီး အမှတ်အသားပြုခြင်းခံထားရတဲ့ မြည်းတစ်ကောင်အနားက ကိုယ်တော် ဖြတ်သွားချိန်မှာ "ဒီသတ္တဝါကို အခုလို မီးပူကပ် အမှတ်ပြုလိုက်သူအပေါ် အရှင်မြတ် လအ်နသ်ကျရောက်ပါစေ။(အရှင့်ကရုဏာနဲ့ဝေးပါစေ"လို့မိန့်ကြားခဲ့ပါတယ်။)

(မွတ်စ်လင်မ်ကျမ်း)

ကိုယ်တော်မြတ်ﷺက တိရစ္ဆာန်တွေအပေါ် ရက်စက်ခြင်း၊ မွေးမြူပြီး ဂရုမစိုက်ဘဲ ပစ်ထားခြင်းတို့ကို ဟရာမ်(မပြုပိုင်သောအရာ)လို့ သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့ပါတယ်။

မွတ်စ်နဒ်အဟ်မဒ်ကျမ်းလာ စဟလ်ﷺသခင်ရဲ့ ဆင့်ပြန်ချက်တစ်ခုအရ "ကိုယ်တော်မြတ် ﷺဟာ အာဟာရချို့တဲ့ကာ ပိန်လီပြီး အရိုးပေါ် အရေကပ်နေတဲ့ ကုလားအုတ်တစ်ကောင်အနားကနေ ဖြတ်

သွား တော်မူခဲ့ပါတယ်။ ကုလားအုတ်ရဲ့ မရှုမလှအခြေအနေကို မြင်တော်မူပြီး "အသင်တို့ စကားမပြောနိုင်ရှာတဲ့ ဒီတိရစ္ဆာန်လေးတွေရဲ့ အခွင့်အရေးနဲ့ ပတ်သက်ပြီး အရှင်မြတ်ကို ကြောက်ရွံ့ကြပါ။ သူတို့လေးတွေကို တရားသဖြင့်သာ စီးနင်းခိုင်းစေပြီး၊ တရားသဖြင့်သာ စားသောက်ကြ ပါ"လို့ မိန့်ကြားတော်မူခဲ့ပါတယ်။

မွတ်စ်နဒ်အဟ်မဒ်ကျမ်းလာ ကုရ်ရဟ်ဗင်န် အဲ့ယားစ် အလ်မုဇနီ ﷺသခင်ရဲ့ ဆင့်ပြန်ချက်မှာ ပုဂ္ဂိုလ်တစ်ဦးက ကိုယ်တော်မြတ်ﷺကို အို.. အလ္လာဟ်အရှင်မြတ်ရဲ့ ရစူလ် တမန်တော် ၊ ကျွန်တော်ဟာ ဆိတ်တစ်ကောင်ကို ဇဗဟ်(လည်လှီးရာမှာ) သနားကြင်နာမိပါတယ်လို့ လျှောက်ထားရာ ကိုယ်တော်မြတ် ﷺက "ဆိတ်ကလေးကို အသင်သနားမိတယ်ဆိုရင် အရှင်မြတ်ကလည်း အသင့်ကို သနားကြင်နာလိုက်ပြီ" လို့ နှစ်ကြိမ်တိုင်တိုင် မိန့်ကြားတော်မူခဲ့ပါတယ်။

တိရိစ္ဆာန်တွေဆီကနေ လိုအပ်သည့်ခန့်သာ အကျိုးခံစားဖို့အတွက် အခုလို မိန့်ကြားတော်မူပါတယ်။ " အသင်တို့ တိရိစ္ဆာန်တွေရဲ့ ကျောကုန်းကို ကုလားထိုင်လို၊ ပလ္လင်လို အမြဲထိုင် ထိုင်ခုံအဖြစ်ပြုလုပ်ခြင်းကို ရှောင်ကြပါ။ အလ္လာဟ်အရှင်မြတ်က အသင်တို့အတွက် ဒီတိရိစ္ဆာန်တွေကို ထိန်းချုပ်ပေးနေတာဟာ အသင်တို့ အားကုန်အင်ကုန်ခမ်း လျှောက်လှမ်းရမယ့် ခရီးတွေကို သူတို့အကူအညီနဲ့ လွယ်ကူစွာ သွားလာနိုင်ရေးအတွက်သာဖြစ်ပါတယ်။"လို့ မိန့်ကြားတော်မူခဲ့ပါတယ်။ (အဗူဒါဝူးဒ်ကျမ်း)

သက်ရှိ တိရိစ္ဆာန်လေးတွေကို မျှားပစ်ရာမှာ ပစ်မှတ်ပြုခြင်းကို လည်းတားမြစ်တော်မူခဲ့ပါတယ်။

အိဗ်နေ့အုမရ်ﷺ သခင်ကြီးဟာ ငှက်ကလေးတစ်ကောင်ကို ပစ်မှတ်ထားပြီး မျှားပစ်လေ့ကျင့်နေကြတဲ့ လူငယ်လေးတွေအနားက ဖြတ်သွားချိန် “ ဒီလိုအကျည်းတန်တဲ့ အလုပ် လုပ်သူအပေါ် အရှင်မြတ်ရဲ့ လအ်နသ်ကျရောက်ပါစေ။ ကိုယ်တော်မြတ် ﷺ သက်ရှိတိရိစ္ဆာန်တစ်ကောင်ကို ပစ်မှတ်ပြုပြီး (မျှားပစ်လေ့ကျင့်)သူများအပေါ် လအ်နသ် (ကျိန်ဆဲ)တော်မူခဲ့ပါတယ်။ လို့ မိန့်ကြားခဲ့ပါတယ်။

(ဗိုခါရီ-မွတ်စ်လင်မ်)

လိုအပ်လျှင် စားသောက်ဖို့အတွက် စားပိုင်တဲ့ တိရိစ္ဆာန်တွေကို ရှရီအသ်တရားတော်နဲ့အညီ လည်လှီးစားဖို့ ခွင့်ပြုတော်မူခဲ့ပါတယ်။ သို့ပေမယ့် ဒီအချိန်မှာလည်း “ အသင်တို့ တိရိစ္ဆာန်တွေကို လည်လှီးတဲ့အခါ ကောင်းမွန်ကျနစွာ လည်လှီးကြပါ။ ဓါးကို ထက်မြက်အောင်သွေးကြပါ။ တိရိစ္ဆာန်ကို သက်သာမှုပေးကြပါ။”လို့ မိန့်ကြားတော်မူခြင်းဟာ တိရစ္ဆာန်တို့အပေါ် မြတ်ကိုယ်တော် ပြသခဲ့တဲ့ အကြင်နာတစ်ခုပင် မဟုတ်ပါလော။

တိရိစ္ဆာန်တွေကို ညှင်းဆဲခြင်းကိုမပြုလုပ်ဖို့ သတိပေးတော်မူခဲ့ပါတယ်။ ကိုယ်တော်မြတ် ﷺက “ကြောင်လေးတစ်ကောင်ကို သေသွားသည်အထိ အစာရေစာဖြတ်ကာ ချုပ်နှောင်လိုက်တဲ့ အမျိုးသမီးတစ်ဦး

အကြောင်းကို ပြောပြတော်မူပါတယ်။ သူမဟာ ဒီလုပ်ရပ်ကြောင့် အပြစ် ပေးခြင်းခံရပြီး ဂျဟန္နမ်ကျသွားကြောင်းမိန့်တော်မူပါတယ်။ တကယ်တော့ ဒီအမျိုးသမီးဟာ ကြောင်လေးကို လွှတ်လပ်ခွင့်ပေးသင့်ကြောင်း၊ ကိုယ်မကျွေးလိုလျှင်လည်း သူ့ဖာသာ အစာ ရှာစားဖို့ အခွင့်အလမ်းများ ဖန်တီးပေးသင့်ကြောင်း မိန့်ကြားတော်မူခဲ့ပါတယ်။ (ဗိုခါရီ-မွတ်စ်လင်မ်ကျမ်း)

ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ملهم العالم ကျမ်းတွင်
ရေးသားချက်ကို ဆီလျော်စွာ ပြန်ဆိုသည်။

------------------------------

## ၁၃။ တိရစ္ဆာန်များအပေါ် ကရုဏာထားခဲ့တဲ့ မြတ်ကိုယ်တော်ﷺ (၂)

တခွင်ကမ္ဘာ ကရုဏာပွားတော်မူသော ကိုယ်တော်မြတ်ﷺက တိရိစ္ဆာန်များအပေါ် သနားကြင်နာသူများ၊ ကျွေးမွေးစောင့်ရှောက်သူများအတွက် များစွာသော အကျိုးဆဝါးဗ်ရှိကြောင်း မိန့်ကြားတော်မူပါတယ်။

ဗိုခါရီနဲ့မွတ်စ်လင်မ်ကျမ်းလာ ဆင့်ပြန်ချက်တစ်ရပ်မှာ လာရှိပါတယ်။ "လူတစ်ဦးဟာ ခရီးသွားနေရင်း ရေဆာလာတယ်။ ရေတွင်းတစ်ခုအနားရောက်တာနဲ့ ဆင်းပြီး ရေသောက်လိုက်တယ်။ ပြီးတော့ ပြန်ထွက်လာခဲ့တယ်။ ရေတွင်းအနားမှာ ခွေးလေးတစ်ကောင်ဟာ ရေဆာလွန်းအားကြီးပြီး လျှာတစ်လစ်ဖြစ်ကာ သဲပြင်ကို လျက်စားနေရှာတယ်။ ဒီပုဂ္ဂိုလ်က ဩော်.. ဒီခွေးလေးဟာ ငါရေဆာခဲ့သလို ရေဆာနေရှာတာပါလား။ လို့ ပြောပြီး ရေတွင်းထဲကိုပြန်ဆင်း၊ မိမိရဲ့ သားရေခြေအိတ်ထဲမှာ ရေအပြည့်ခပ်လာပြီး တိုက်ကျွေးလိုက်ပါတယ်။ ပြီးတော့ ခွေးလေးကို ရေတစ်ဝ တိုက်ခွင့်ရတဲ့အတွက်လည်း အရှင်မြတ်ကို ကျေးဇူးတင်လိုက်ပါသေးတယ်။ အရှင်မြတ်ကလည်း သူ့ကို ခွင့်လွှတ်လိုက်ပါတယ်။" ဒီအကြောင်းကို ကြားနာနေတဲ့ ဆွဟာဗာကြီးတွေက "အို..အလ္လာဟ်အရှင်မြတ်ရဲ့ ရစူလ်တမန်တော်၊ တိရိစ္ဆာန်တွေကို ကျွေးမွေးခြင်းအပေါ် ကျွန်တော်မျိုးတို့အတွက် ဆဝါးဗ်ကုသိုလ် ရရှိပါသလားလို့ တအံ့တသြ မေးမြန်းကြတဲ့အပေါ် ကိုယ်တော်မြတ်ﷺက

"ကုသိုလ်ရတာပေါ့"၊စိုစွတ်နေတဲ့ အသဲရှိ၊ သက်ရှိသတ္တဝါတိုင်းကို ကျွေးမွေးခြင်းကြောင့် ကုသိုလ်ရပါတယ်။" လို့ မိန့်ကြားခဲ့ပါတယ်။

"သက်ရှိတိုင်းကို ကျွေးမွေးခြင်းဖြင့် ကုသိုလ်ရပါတယ်" ဆိုတဲ့ ဝါကျလေးဟာ အင်မတန် တိုတောင်းပေမယ့် အဓိပ္ပါယ်ဟာ အလွန်ကို ကျယ်ဝန်းလှပါတယ်။ သက်ရှိတိုင်းဆိုတဲ့ ခေါင်းစဉ်အောက်မှာ လူသားတွေ၊ ကျေးငှက်သတ္တဝါလေးတွေ၊ ခြေလေးချောင်း၊ ခြေနှစ်ချောင်း တိရစ္ဆာန်တွေ အားလုံး အကြုံးဝင်ပါတယ်။ ဒါဟာ ကိုယ်တော်မြတ် ﷺရဲ့ ကျယ်ပြန့်လှတဲ့ အကြင်နာ စက်ဝန်းပါ။ ဒီအကြင်နာ စက်ဝန်းဟာ အလွန်ကို ကျယ်ပြန့်လှပါဘိတကား၊ ဒါဟာ အကြင်နာတရားရဲ့ အဆုံးအစွန်ပါပဲ။ မုဓိတာဗိမ္မာန်ရဲ့ ထွဋ်ခေါင်ပါပဲ။

တိရစ္ဆာန်တွေအပေါ် မြတ်ကိုယ်တော် ရဲ့ ကြင်နာခြင်းအတွက် နောက်ထပ် ပုံရိပ်တစ်ခုကို ဆွဲထုတ်ပြသပါရစေ။ ဒီအကြင်နာ စမ်းဟာ တသွင်သွင်စီးဆင်းပြီး အပါးတော်ရှိတဲ့ လူတွေအတွက်တင်မကဘဲ လောကဝေနေယျအားလုံးအပေါ် အကျိုးဖြစ်ထွန်းစေတာပါ။ နောက်ဆုံး ခြေလေးချောင်းသတ္တဝါတွေ ကျေးငှက်ကလေးတွေ အပေါ်ထိ စီးဆင်းလျက်ရှိနေခဲ့ပါတယ်။

အဗူဒါဝူးဒ်ကျမ်းလာ အဗ်ဒုလ္လာဟ်ဗင်န် ဂျအ်ဖရ်ﷺသခင်ရဲ့ ဆင့်ပြန်ချက်ကိုလည်း ရှုစားကြည့်ပါ။ "ကိုယ်တော်မြတ်ﷺဟာ အန်ဆွာရီတစ်ဦးရဲ့ ဥယျာဉ်ခြံထဲကို ကြွမြန်းလာခဲ့ပါတယ်။ ရုတ်တရက် ကုလားအုတ်တစ်ကောင်ဟာ ကိုယ်တော့်ကို တွေ့ပြီး အကြင်နာငတ်နေ

တဲ့ ပုံစံနဲ့ မျက်လုံးအစုံက မျက်ရည်တွေ စီးကျလာခဲ့တယ်။ ကိုယ်တော်မြတ်ﷺဟာ ဒီကုလားအုတ်နားကိုလာပြီး သူ့ရဲ့ မျက်ရည်စတွေကို ဖယ်သုတ်ပေးတော်မူခဲ့ပါတယ်။ ပြီးတော့ "ဒီကုလားအုတ်မလေးဟာ ဘယ်သူ့ ဟာလဲ လို့မေးမြန်းခဲ့ပါတယ်။ ဆယ်ကျော်သက်အရွယ် အန်ဆွာရီ ဆွဟာဗီလေးတစ်ဦးက "ကျွန်တော့် ကုလားအုတ်မပါ လို့ လျှောက်ထားခဲ့ပါတယ်။ ကိုယ်တော်မြတ်ﷺက "အသင်တို့ကိုအရှင်မြတ် ပိုင်ဆိုင်ခွင့် ပေးထားတဲ့ စကားပြောနိုင်စွမ်းမရှိတဲ့ သတ္တဝါလေးတွေနဲ့ ပတ်သက်ပြီး ဖန်ဆင်းရှင်ကို မကြောက်ကြဘူးလား။ သူလေးက ငါကိုယ်တော့်ကို အစာငတ်နေကြောင်း၊ ပင်ပမ်းနေကြောင်း တိုင်တန်းနေရှာတာပါ။ " လို့ မိန့်ကြားခဲ့ပါတယ်။ ဒီလိုမိန့်ကြားခြင်းဟာ ဒီကုလားအုတ်လေးအပေါ် ကြင်နာယုယပြီး သူ့ကို ဒုက္ခတွေကနေ ကျွတ်လွတ်စေခဲ့တာ မဟုတ်လား။

ဗိုခါရီ နဲ့ မွတ်စ်လင်မ်ကျမ်းလာ ဟဒီးဆ်တော်တစ်ပုဒ်ကိုလည်း ရှုစားကြည့်ပါဦး.... "မည်သည့် မွတ်စ်လင်မ်ပင်မဆို သစ်ပင်တစ်ပင် ၊ လယ်တစ်ကွက် စိုက်ပျိုးခဲ့မည်။ ထိုသစ်ပင်နှင့်လယ်ယာတို့မှ ကျေးငှက် တိရိစ္ဆာန်များ၊ လူသားများ၊ ခြေလေးချောင်း၊ ခြေနှစ်ချောင်း သတ္တဝါများ စားသုံးကြပြီး အကျိုးခံစားကြရမည် ဆိုပါက ထိုသစ်ပင်၊ လယ်ယာတို့ ဟာ သူ့အတွက် ဆွဒကဟ် (အလှူဒါန) စာရင်းဝင်သွားပေမည်။ " လို့ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူခဲ့ပါတယ်။

ဒီလိုကြင်နာတတ်တဲ့ နဗီကို ကျွန်ုပ်တို့ထံ စေလွှတ်ပေးတော်မူခဲ့တဲ့ အရှင်မြတ်၊ အကြင်နာတရားများ၊ မုဓိတာများ၊ ယုယခြင်းများနဲ့ ပြည့်စုံကုံလုံလှတဲ့ ကိုယ်တော့်ရဲ့ လမ်းစဉ်အား ကျွန်တော်မျိုးတို့ကို ပြသပေးသနားတော်မူသော အရှင်မြတ်ကို ကိုယ်နှုတ်နှလုံး ဤသုံးပါးလုံးနဲ့ ချီးမွမ်း ထောပနာပြုအပ်ပါတယ်။

ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ملهم العالم ကျမ်းတွင်
ရေးသားချက်ကို ဆီလျော်စွာ ပြန်ဆိုသည်။

## ၁၄။ ကျေးငှက်များအပေါ် ကရုဏာထားခဲ့တဲ့ မြတ်ကိုယ်တော်ﷺ

ကျေးငှက်ကလေးများအပေါ် ကိုယ်တော်မြတ်ﷺရဲ့ သနားကြင်နာခဲ့ခြင်းအတွက် အကောင်းဆုံးနဲ့ အလှပဆုံး အကြောင်းအရာလေးကို အဗ်ဒုလ္လာဟ်ဗင်န် မတ်စ်အူးဒ် ﷺသခင်က ဆင့်ပြန်တော်မူခဲ့ပါတယ်။

"ကျွန်ုပ်တို့ ကိုယ်တော်မြတ်ﷺနဲ့အတူ ခရီးတစ်ခုနှင်နေခိုက် ကိုယ်တော်ဟာ အပေါ့သွားဖို့ တနေရာကို သွားလိုက်ပါတယ်။ ကျွန်ုပ်တို့က ငှက်မိခင်တစ်ကောင်နဲ့ ငှက်ပေါက်လေးနှစ်ကောင်ကိုတွေ့ပြီး ငှက်ပေါက်လေးတွေကို ယူလိုက်ကြပါတယ်။

ထိုအခါ ငှက်မကြီးဟာ တောင်ပံတစ်ခပ်ခပ်နဲ့ ဆောက်တည်ရာမရ ဖြစ်သွားပါတယ်။ ကိုယ်တော်မြတ်ﷺက ဒီမိခင်ကြီးကို သူ့ရင်သွေးတွေနဲ့ ဘယ်သူခွဲလိုက်တာလဲ? (အခုချက်ချင်း) သူ့ကလေးတွေ သူ့ဆီပြန် လွှတ်ပေးလိုက်ပါ"လို့ မိန့်တော်မူခဲ့ပါတယ်။

ထိုခရီးစဉ်အတွင်းမှာပဲ နောက်ထပ် အကြောင်းအရာတစ်ခုလည်း ဖြစ်ပျက်ခဲ့ပါသေးတယ်။ ကျွန်ုပ်တို့ မီးရှို့ဖျက်ဆီးထားတဲ့ ပုရွက်ဆိတ်ရွာလေးတစ်ရွာကို ကိုယ်တော်ﷺက တွေ့မြင်သွားပြီး ဒီပုရွက်ဆိတ်အုံကို ဘယ်သူမီးရှို့တာလဲ။ လို့ မေးမြန်းတော်မူပါတယ်။ ကျွန်ုပ်တို့ ရှို့လိုက်တာပါလို့.... ဖြေကြားလိုက်တော့ ကိုယ်တော်မြတ်ﷺက "မီးကို ဖန်ဆင်းတော်မူတဲ့အရှင်မြတ်ပဲ မီးနဲ့အပြစ်ပေးပိုင်ခွင့်ရှိပါတယ်" လို့ မိန့် ကြားခဲ့ပါတယ်။ (အဗူဒါဝူးဒ်ကျမ်း)

ဒီဟဒီးဆ်တော်မြတ်မှာပါရှိတဲ့ နဗီအကြင်နာတရားတွေ၊ ဒီအကြင်နာတရားတွေကို ကျေးငှက် တိရိစ္ဆာန်လေးတွေကပါ သိရှိနားလည်နေခြင်းကို အခြေခံပြီး ကဗျာဆရာက အခုလို စပ်ဆိုခဲ့ပါတယ်။

جاءت إليك حمامةٌ مشتاقةٌ

تشكو إليك بقلبٍ صَبٍّ واجفِ

من أخبر الورقاءَ أن مقامكُم

حرمٌ، وأنَّك منزلٌ للخائفِﷺ .

ကိုယ်တော့်ဆီကို ခိုလေးတစ်ကောင်ဟာ မျှော်လင့်ကြီးစွာနဲ့ တုန်လှုပ်ခြောက်ခြားနေတဲ့ နှလုံးသားတစ်စုံကိုယူဆောင်ကာ ဦးတည်လာခဲ့ပါတယ်။ ကိုယ်တော့်ရဲ့ ရင်ခွင်၊ ကိုယ်တော့် ထံပါးမှာ သူတို့လေးတွေကိုတန်ဖိုးထားပြီး ကျူးကျော်ခွင့်မပြုတဲ့ စိတ်နှလုံးရှိကြောင်း ၊ ကိုယ်တော်ဟာ ကြောက်ရွံ့ စိုးရိမ်သူတို့အတွက် ခိုလှုံရာဖြစ်ကြောင်း ဘယ်သူကများ သူတို့ကို သတင်းပေးလိုက်ပါလိမ့်...။

ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ملهم العالم ကျမ်းတွင် ရေးသားချက်ကို ဆီလျော်စွာ ပြန်ဆိုသည်။

## ၁၅။ သက်မဲ့လေးတွေ ခံစားမိတဲ့ မြတ်ကိုယ်တော်ရဲ့ ကရုဏာ

မြတ်ကိုယ်တော် ﷺ ရဲ့ အကြင်နာတရားတွေကို သက်ရှိတွေပဲ မဟုတ်ပါဘူး။ သက်မဲ့လေးတွေကပါ ခံစားတတ်ကြပါတယ်။ သက်မဲ့အရာဝတ္ထုလေးတွေတောင် ကိုယ်တော့်ရဲ့ အကြင်နာတရားကို သိနားလည်နေတယ်ဆိုတာတော့ သဘာဝလွန်အစွမ်းပါပဲ။

ဒီအတွက် တိကျခိုင်လုံတဲ့ ဟဒီးဆ်ကျမ်းကြီးတွေမှာ ဖော်ပြထားတဲ့ တချို့အကြောင်းအရာလေးတွေကို နမူနာအနေနဲ့ တင်ပြအပ်ပါတယ်။

ကိုယ်တော်မြတ် ﷺအတွက် ဆွဟာဗာကြီးတွေက မင်န်ဗရ် တရားဟောပလ္လင်အသစ်တစ်ခု ပြုလုပ်ပြီး ဆက်သတဲ့အခါ ကိုယ်တော်ကလည်း လက်ခံ အသုံးပြုတော်မူခဲ့ပါတယ်။ ယခင်က တရားဟောကြားရာမှာ ကိုယ်တော်မှီခဲ့တဲ့၊ အသုံးပြုခဲ့တဲ့ စွံပလွံပင်စည်လေးကို အသုံးမပြုဘဲ ထားလိုက်တဲ့အခါ ထိုစွံပလွံပင်စည်လေးဟာ ဝမ်းနည်းကာ အကြင်နာတောင်းခံခဲ့တယ်ဆိုတဲ့ ဖြစ်ရပ်မှန်လေးပါ...။

ဗိုခါရီ ကျမ်းလာ ဂျာဗိရ် ﷺသခင်ရဲ့ ဆင့်ပြန်ချက်လေးကို ရှုစားကြည့်ပါ။

“အန်ဆွာရီ အမျိုးသမီးတစ်ဦးက “အို...ကိုယ်တော် ကျွန်မမှာ လက်သမားတစ်ဦးရှိပါတယ်။ ကိုယ်တော်ထိုင်ဖို့ တစ်ခုခု လုပ်ပေးခွင့်ပြုပါ။”ဆိုပြီး လာရောက်လျှောက်ထားခဲ့ပါတယ်။

ကိုယ်တော်မြတ် ﷺကလည်း အသင်မ ဆန္ဒရှိတယ်ဆိုရင်လည်း ပြုလုပ်လိုက်ပါဆိုပြီး ခွင့်ပြုပေးလိုက်ပါတယ်။ သူမက ကိုယ်တော်မြတ် ﷺအတွက် မင်န်ဗရ်(တရားဟောပလ္လင်တစ်ခု) ပြုလုပ်စေခဲ့ပါတယ်။

ဂျုမ္မ်ာ့အဟ်(သောကြာနေ့)မှာ ကိုယ်တော်မြတ် ﷺက မင်န်ဗရ် အသစ်အပေါ် ထိုင်တော်မူတဲ့အခါ ကိုယ်တော် ထိုင်နေကျ စွံပလွံပင်စည် အဟောင်းဟာ အက်ကွဲမတက် အော်ဟစ်ခဲ့ပါတယ်။

ထိုအခါ ကိုယ်တော်မြတ်ﷺက သူ့ဆီကြွမြန်းလာပြီး ဖက်တွယ်လိုက်ချိန်မှ တိတ်ဖို့ ချော့မော့ခံချင်တဲ့ ကလေးတယောက် ငြီးသကဲ့သို့ ငြီးတွားကျိုကျနေခဲ့ပါတယ်။ နောက်ဆုံးမှာ ငြိမ်သက်သွားခဲ့ပါတယ်။

“သူမကြားနေကျ ဇိကရ်တော်တွေအပေါ် ငိုကြွေးမြည်တမ်းနေခြင်းဖြစ်ပါတယ်”လို့ ကိုယ်တော်မြတ် ﷺက မိန့်ကြားခဲ့ပါတယ်။

ကိုယ်တော်မြတ်ﷺ ဟေရာလှိုင်ဂူကို ကြွမြန်းနေစဉ် စလာမ် မေတ္တာပို့သခဲ့တဲ့ ကျောက်တုံးတွေ၊ သစ်ပင်တွေ၊ မက္ကဟ်ကို အောင်နိုင်စဉ် ကိုယ်တော့်ကို စလာမ်ပေးခဲ့တဲ့ ကျောက်တုံးလေးတွေဟာ ဒီ ကရုဏာရှင်ရဲ့ ကရုဏာ တရားတွေကို နားလည်နေရှာတာပါလား....။

သက်ရှိဖြစ်ကြတဲ့ ကျွန်ုပ်တို့တတွေလည်း ဒီအကြင်နာတွေ၊ မေတ္တာတွေနဲ့ ကိုယ့်ကိုယ်ကို ထိုက်တန်အောင်ပြုလုပ်လိုက်မယ်ဆိုရင် ဘယ်လောက်တောင် ကောင်းလိုက်မလဲ... လို့ မေးခွန်းလေးများ မေးမြန်းရင်းဖြင့်....

ဒေါက်တာအာအိဇ်ကရ်နီ၏ ملهم العالمကျမ်းမှ ရေးသားချက်ကို မှီငြမ်းသည်။

## ၁၆။ ကိုယ်တော် ﷺမပွင့်ခင် ကမ္ဘာတစ်ခွင်

ကမ္ဘာကြီးရဲ့ အသက်ဘယ်လောက်ရှိသွားပြီးလဲ.....?

ကမ္ဘာကြီးဟာ ဘယ်နှစ်နှစ်သားလဲ....?

အဖြေကို အရှင်မြတ်မှ တစ်ပါး ဘယ်သူမှ အတိအကျ မသိရှိပါဘူး။

သို့ပေမယ့် ဒီလူ့လောကကြီးကို အရှင်မြတ်က အာဒမ်ﷺနဲ့ စတင်ခဲ့တာကိုတော့ အားလုံးအသိပါပဲ။ အာဒမ်ﷺ ပြီးတဲ့နောက် နဗီ ပေါင်း (၁၂၄၀၀၀)ကျော်ကွဲမြန်းခဲ့တာကိုလည်း အားလုံး သိရှိကြပါ တယ်။

ကျွန်တော်တို့ရဲ့ နဗီကြီး မပွင့်ပေါ်မီ နောက်ဆုံး နဗီတမန်တော် ဟာ အီစာﷺသခင်ကြီးဖြစ်ကြောင်းကိုလည်း အားလုံးအသေအချာ သိ ရှိကြပါတယ်။ အီစာﷺသခင် မိုးကောင်းကင်ပေါ် ကွဲမြန်းပြီးတဲ့ နောက်မှာ နဗီတမန်တော်ပွင့်ပေါ်ခြင်း အစဉ်အလာဟာ ရပ်တန့်သွားခဲ့ ရပါတယ်။ နှစ်ပေါင်း (၅၀၀)ကျော်သွားတဲ့အထိပေါ့။ ကမ္ဘာတစ်ခု လုံးဟာ မိုး ကောင်းကင်နဲ့ ဝဟီ အဆက်အသွယ်ပြတ်တောက်ခဲ့ရတဲ့ အမှောင်လွှမ်း တဲ့ ကာလတစ်ခုဖြစ်ခဲ့ပါတယ်။

ကမ္ဘာ့တိုက်ကြီးတွေ၊ အင်ပါယာကြီးတွေ၊ နိုင်ငံတွေ၊ မြို့ရွာတွေ ဟာ ကိုယ့်ဒူးကိုယ်ချွန်၊ ကိုယ်လှေကိုယ်လှော်၊ ကိုယ့်မြင်းကိုယ်စီးနေတဲ့ ခေတ်ဆိုးတစ်ခု၊ တစ်ကျောင်းတစ်ဂါထာ တစ်ရွာတစ်ပုဒ် ဆန်းဆိုသလို ပါပဲ။

ခေတ်အဆက် နဗီတမန်တော်တွေ ဟာစ်ကြွေးခဲ့တဲ့ သောင်ဝ်ဟီးဒ်(တစ်ပါးတည်းသောအရှင်ကို ကိုးကွယ်ခြင်း)ဆိုတဲ့ ဟာစ်ကြွေးသံဟာလည်း မေးမှိန်သွားခဲ့ရပါတယ်။ ရှေးယခင်ကရှိနေခဲ့တဲ့ ဘာသာတရားတွေဟာလည်း ဝိဉာဉ်တွေ၊ အနှစ်သာရတွေ ပျောက်ဆုံးသွားရတဲ့အထိ ဖြစ်သွားခဲ့ပါတယ်။

အရဗ်လူမျိုးတွေဟာလည်း တမန်တော် အိဗ်ရာဟီးမ် عليه السلامရဲ့ သာသနာ၊ သခင်ကြီးရဲ့ သွန်သင်ချက်တွေနဲ့ ဝေးခဲ့ရပါတယ်။ စာရိတ္တတွေ ပျက်ပြား၊ လောင်းကစားတွေ အရက်သေစာတွေ သောက်စားခြင်းဟာလည်း ပေါ်များလာခဲ့ရပါတယ်။ သမီးငယ်လေးတွေကို အရှင်လတ်လတ် မြေမြှုပ်သတ်တဲ့အထိ နှလုံးသားတွေ မာကြောနေခဲ့ပါတယ်။ ခိုးဆိုးလုနှိုက်ခြင်းတွေဟာ သူတို့ဘဝရဲ့ အစိတ်အပိုင်းတစ်ခု ဖြစ်လာခဲ့ပြီး အမျိုးသမီးတွေရဲ့ အဆင့်အတန်းနဲ့ အခွင့်အရေးတွေဟာ အရဗ်လူ့ပတ်ဝန်းကျင်မှာ ဆုံးရှုံးနေရပါတယ်။

သူတို့တွေဟာ စစ်မက်ဖြစ်ပွားနေရတာကို အလွန်အမင်း နှစ်ခြိုက်သူတွေဖြစ်ခဲ့ပြီး နှစ်ပေါင်းများစွာ ကြာညောင်းတဲ့ထိသွေးချောင်းစီး တိုက်ပွဲတွေကို သားစဉ်မြေးဆက် အမွေပေးလေ့ရှိခဲ့ကြပါတယ်။

အချုပ်ဆိုရရင်တော့ ဒီအမှောင်ခေတ်ကြီးထဲမှာ လူသားဟာ မိမိရဲ့ အရှင်မြတ်ကို မေ့လျော့လာခဲ့တယ်။ ကိုယ့်ရဲ့ ပြန်လှည့်ရာဌာနဖြစ်တဲ့ အာခိရေသ် တမလွန်ကို ကျောခိုင်းလာတော့ပါတယ်။ ဒီလိုနဲ့ အသိဉာဏ် လက်မဲ့ဖြစ်ကာ ဆင်ခြင်တုံတရား ကင်းပါးလာရပါတယ်။

ဒီအခြေအနေဆိုးကို ကုစားဖို့အတွက် မြင့်မြတ်တော်မူသော အရှင်မြတ်က အရဗ်လူမှုပတ်ဝန်းကျင်ကို ရွေးချယ်တော်မူခဲ့ပါတယ်။

လူသားထုပြုပြင်ရေး ဗဟိုချက်မအတွက် အာရေဗျကျွန်းဆွယ်ကို နှစ်သက်တော်မူခဲ့ပါတယ်။ သူတို့ရဲ့ နှလုံးသားတွေဟာ အဖြူထည်တွေဖြစ်လို့ပါ။ ဖြေဖျောက်သန့်စင်ရခဲ့တဲ့ အယူဝါဒတွေ၊ ပဟေဠိတွေကင်းပါတယ်။ မသိလို့မှားခဲ့တာတွေတော့ ရှိပါတယ်။ အသိလွန်ပြီးမှားခဲ့ တဲ့ အနေအထားတွေ သူတို့မှာ မတွေ့ရပါဘူး။ သူတို့တွေဟာ သဘာဝ အတိုင်း အရိုးခံစိတ်ရင်းရှိသူတွေပါ။ အမှန်တရားကို နှစ်သက်ကြတယ်။ အဆောင်အယောင်ကင်းကြတယ်။ အမှားထောက်ပြတာကို နှစ်သက် ကြတယ်။ ကတိသစ္စာ၊ သိက္ခာတွေကို အသက် နဲ့လဲပြီး ကာကွယ်ကြတယ်။ ရဲစွမ်းသတ္တိရှိခြင်း၊ လက်ရုံးရည် နှလုံးရည်ပြည့်စုံခြင်းရဲ့ ပြယုဂ်တွေ လည်း ဖြစ်ခဲ့ပါတယ်။

ဒီလိုသဘာဝဆန်တဲ့ မြေကြီးမှာ တလောကလုံးကို အလင်းပေးမယ့် နေမင်း၊ ဦးတည်ရာမဲ့နေတဲ့ လူသားထုတစ်ရပ်လုံးကို ဦးတည်ချက်မှန်စေမယ့် လမ်းပြမီးအိမ်၊ ဆုံးရှုံးမှုတွင်း နစ်မွန်းနေတဲ့ လူ့ပတ်ဝန်းကျင်ကြီးကို အောင်မြင်မှုရဲ့ သော့ချက်တွေ ပေးအပ်မယ့် ကိုယ်တော်မြတ်ﷺ ဟာ မီးရှူးသန့်စင် ဖွားမြင်ခဲ့ရပါတယ်။

وفم الزمان تبسم وثناء ولد الهدى فالكائنات ضياء

“ တရားလမ်းမှန် မွေးဖွားချိန်တန် ကမ္ဘာတစ်ခွင် လင်းလက်ခဲ့ရ။
လောကနှုတ်ဖျား ချီးကျူးစကား ပြုံးရိပ်များလည်း ခိုတွဲခဲ့ရ။”

## ၁၇။ မင်္ဂလာပေါ် မင်္ဂလာထပ်တဲ့ ကျွန်တော်တို့ကိုယ်တော်မြတ် ﷺ

ကမ္ဘာကြီးဟာ သူ့ဘဝမှာ မင်္ဂလာအရှိဆုံးနေ့၊ နဖူးစာ အကောင်း ဆုံးနေ့တစ်နေ့ကို မြင်ဖူးခဲ့ပါတယ်။ အနီးစပ်ဆုံး အတိအကျ ပြောရရင် အဲ့ဒီနေ့ဟာ ကအ်ဗာကျောင်းတော်ကို ဖြိုဖျက်ဖို့လာခဲ့တဲ့ ယီမင်ဘုရင်ခံ အဗ်ရဟဟ်နဲ့သူ့ရဲ့ ဆင်တပ်ကို အရှင်မြတ်က ဖျက်ဆီး ခဲ့တဲ့နှစ် ဆင်နှစ်၊ ရဗီအွလ်အောက်ဝလ်(၉)ရက်၊ ခရစ်နှစ် (၅၇၁)ခုနှစ်၊ ဧပြီလ (၂၂)ရက် တနင်္လာနေ့ နံနက်မိုးသောက်လင်းချိန်ပါ။

ဖခမည်းတော် အဗ်ဒုလ္လာဟ်သခင်နဲ့ မယ်တော်အာမေ့နဟ်တို့ရဲ့ သားတော် **မုဟမ္မဒ်ဗင်န် အဗ်ဒုလ္လာဟ်**ဗင်န် အဗ်ဒုလ်မွသ့်သွလိဗ် ဗင်န် ဟာရှင်မ် ဗင်န် အဗ်ဒေ့မနားဖ်ဗင်န် ဗင်န်ကိုဆိုက် ဗင်န် ကေလာဗ် ဗင်န် မုရ်ရဟ်ဗင်န် ကအဗ် ဗင်န်လိုအိုက်ယ် ဗင်န် ဂါလိဗ် ဗင်န် ဖစ်ဟ်ရ် ဗင်န် မာလိက် ဗင်န် အန်နသွရ် ဗင်န် ကိနာနား ဗင်န်ခိုဇိုင်မဟ် ဗင်န် မုဒ်ရိ ကဟ် ဗင်န် အိလ်ယားစ် ဗင်န် မုသွရ် ဗင်န် နိဇားရ် ဗင်န် မအဒ် ဗင်န် အဒ်နားန် မီးရှူးသန့်စင် ဖွားမြင်တော်မူတဲ့နေ့ပါ။

**ကမ္ဘာကြီးမှာ အကောင်းဆုံး အလှပဆုံး မင်္ဂလာအရှိဆုံး နေ့တစ်နေ့ပါ။**

မီးရှူးသန့်စင်ဖွားမြင်ပြီးတဲ့နောက်မှာ ကိုယ်တော် ﷺဟာ အရှင် မြတ်ရဲ့ ထိန်းသိမ်းစောင့်ရှောက်မှုအောက်မှာ ကြီးပြင်းတော်မူခဲ့ပါ တယ်။

ကိုယ်တော်မြတ်ﷺရဲ့ ကိစ္စအဝဝဟာ သူ့အချိန်၊ သူ့နေရာနဲ့ စနစ်တကျ ဟန်ချက်ညီစွာ ဖြစ်တည်ခဲ့ပါတယ်။ နှိုးသောက်စိုးခြင်းမှသည် အဆင့်အမြင့်ဆုံး အရဗီပြောဆိုခြင်း စွမ်းရည်ဖြင့် ဆင်မြန်းသည်ထိ ကလေးဘဝကို အလှပဆုံး အသန့်ရှင်းဆုံး ဖြတ်ကျော်ခွင့်ရခဲ့ပါတယ်။

ဘဝမှာ အစွန်းအထင်းဖြစ်စေမယ့် မုသားပြောခြင်း၊ လိမ်လည်ခြင်း၊ သစ္စာဖောက်ခြင်း၊ လှည့်ဖြားခြင်း၊ ခိုးဝှက်ခြင်း၊ နောက်ကွယ်အတင်းပြောခြင်းစတဲ့ ကိစ္စတွေနဲ့ ကင်းတော်မူခဲ့ပါတယ်။ စာရိတ္တ ပျက်ပြားစေတဲ့ အရာအားလုံးနဲ့ ဝေးခဲ့ပါတယ်။

ကိုယ်တော် ﷺကြွမြန်းလာတဲ့ ကမ္ဘာကြီး၊ ကိုယ်တော်ﷺနဲ့ ထိတွေ့ခွင့်ရရှိခဲ့သမျှ အရာရာတိုင်းဟာ အံ့သြဘနန်း မင်္ဂလာ နမ်းသွားပါတယ်။

ဟလီမာﷺသခင်မရဲ့ နို့ရည်ခမ်းခြောက်နေတဲ့ ကုလားအုတ်မရဲ့ နို့အုံဟာ ကိုယ်တော်ﷺရဲ့ မင်္ဂလာကြောင့် ပြည့်ဖြိုးလာခဲ့ရပါတယ်။

သွားနှုန်းနှေးတဲ့ တိရစ္ဆာန်တွေဟာ ကိုယ်တော်ﷺရဲ့ မင်္ဂလာကြောင့် အားလုံးကို ကျော်တက်သွားခဲ့ရတယ်။ ကိုယ်တော်ﷺရဲ့ စကား တွေဟာ လောကတလွှား မင်္ဂလာပါးပေးခဲ့ပါတယ်။ ကိုယ်တော် ﷺ ယူဆောင်လာတဲ့ ရှရီအသ် တရားဟာ မင်္ဂလာပါးပေးတဲ့ သဝဏ်လွှာပါ။

ကိုယ်တော်ﷺအပေါ် ချပေးခြင်းခံရတဲ့ ကျမ်းမြတ်ကုရ်အာန်ဟာ မင်္ဂလာပေါ် မင်္ဂလာထပ်တဲ့ မြတ်ကျမ်းပါ။ ကိုယ်တော်ﷺ ပြုစုပျိုးထောင်ခဲ့တဲ့ အွမ္မသီတွေဟာလည်း ရောက်လေသမျှ နေရာတိုင်းမှာ မင်္ဂလာဖြန့်ဝေသူတွေပါ။

ကျွန်တော် ရဲရဲကြီး ပြောလိုက်ချင်တာက ကိုယ်တော်မြတ်ﷺ ဟာ မင်္ဂလာကို မင်္ဂလာရှိစေခဲ့တာပါ။

## လောကကြီးဟာ ကိုယ်တော်မြတ် ﷺကြောင့် မင်္ဂလာရှိရတာပါ

ကျွန်တော်တို့ရဲ့ ဘဝတစ်ခုလုံးလည်း မင်္ဂလာရှိသွားစေချင်တယ် ဆိုရင်တော့ **ကိုယ်တော့်အချစ်၊ ကိုယ်တော့်စီရသ်နဲ့** ဘဝကို ဆင်မြန်းမှ ရမှာပါ။

## ၁၈။ ပျိုချိန်မှာ မပြုခဲ့တဲ့ ကျွန်ုပ်တို့ ချစ်နဗီ ﷺ

ချစ်နဗီ ﷺ ဟာ ငယ်စဉ်ဘဝကို အသန့်ပြန့်ဆုံး၊ အမွန်မြတ်ဆုံး ပုံစံနဲ့ ဖြတ်သန်းခဲ့ပြီးတဲ့အခါ ပျိုရွယ်ချိန်ကို ရောက်ရှိခဲ့ပါတယ်။

ကိုယ်တော် ﷺ (၁၀)ကျော်သက်အရွယ်မှာ မက္ကဟ်ရွှေမြို့တော် တဝိုက် မိုက်မဲမှုအပေါင်း နေရာယူနေပါတယ်။

- အရက်သေစာလား၊ လောင်းကစားလား၊ တဏှာမူးပြီး အိပ်ယာ ကျူးခြင်းလား။ ဘဝကို ပေါ့ပျက်ပျက် ရည်ရွယ်ချက်မဲ့ ကုန်ဆုံး ချင်တာလား....? မကောင်းတဲ့ အရာအားလုံးဟာ လက်ယပ် ကြိုဆိုလျက်ရှိနေခဲ့တာပါ။ လူပျိုတစ်ယောက် လွန်ဆန်ဖို့ခက်ခဲ တဲ့ ဘဝအချိုးအကွေ့တစ်ခုပေါ့။

သို့ပေမယ့် ကျွန်တော်တို့ ကိုယ်တော်မြတ် ﷺ ဟာ တစ်ကြိမ် တစ်ခါမှ အရက်သေစာ မသောက်ဖူးခဲ့ပါဘူး။ လောင်းတမ်း ကစားခြင်း မပြုခဲ့ပါဘူး။ အိပ်ယာမကျူးခဲ့ပါဘူး။ မိမိရဲ့ ကာဒိန္ဒြေကို၊ ဂုဏ်သိက္ခာ ကို ပျိုရွယ်ချိန်ရဲ့ ရှုးသွပ်ခြင်းများနဲ့ အလဲအထပ်မပြုခဲ့ပါဘူး။ မက္ကဟ် တစ်ခွင်မှာ **“ဒီသစ္စာရှင်ကို ငါတို့ကျေနပ်နှစ်သက်ပြီးသားပါ”**ဆိုတဲ့ ဂုဏ် သတင်း သင်းပြန့်နေခဲ့တာပါ။

»» ကိုယ်တော့်ရဲ့ နုပျိုစဉ်ဘဝမှာ စွမ်းဆောင်ချက်တွေကို ကျွန်တော် နဲ့အတူ တစ်မျက်နှာချင်းစီ လေ့လာကြည့်ကြပါစို့....



## ပထမစာမျက်နှာ

(သစ္စာကိုတည် ခွန်အားကိုမှီပြီး ကြိုးပမ်းအားထုတ်မှု)

ကိုယ်တော်မြတ်ﷺဟာ မိမိရဲ့နုပျိုချိန်ဘဝကို အလုပဆုံးနဲ့ အနှစ်သာရရှိရှိ တည်ဆောက်ပြခဲ့ပါတယ်။ သမာအာဇီဝကျကျ အဖိုး အခ ယူပြီး ဆိတ်ကျောင်းတော်မူခဲ့ပါတယ်။ သက်တော်(၂၅)နှစ်မှာ ခတီဂျာ သခင်မကြီးနဲ့ အကျိုးတူ စီးပွားရေးလုပ်ငန်း စတင်လုပ်ဆောင် တော်မူခဲ့ ပါတယ်။ လုပ်ငန်းရှင်အတွက် သစ္စာစေတနာတို့ကို လက်ကိုင် ထားပြီး၊ လုပ်ရည်ကိုင်ရည်စွမ်းကို အကောင်ဆုံးပြသပေးသနားတော်မူ ခဲ့ပါတယ်။



## ဒုတိယစာမျက်နှာ

(ကြီးသူများနှင့် ပူးပေါင်းဆောင်ရွက်မှု)

လူငယ်တစ်ယောက်အတွက် လူကြီးများနဲ့ ပူးပေါင်းဆောင်ရွက် ဖို့ အင်မတန်အရေးကြီးပါတယ်။ လူကြီးတွေရဲ့ ဘဝသင်ခန်းစာတွေ၊ အတွေ့အကြုံတွေဟာ လူငယ်တွေအတွက် တန်ဖိုးမဖြတ်နိုင်တဲ့ လမ်း ညွှန်ချက်တွေဆိုလည်း မမှားပါဘူး။ ကိုယ်တော်မြတ်ﷺဟာ ဒီ အချက် တွေကို ကောင်းကောင်းနားလည်တော်မူခဲ့ပါတယ်။ حرب الفجار

(ကျူးကျော်စစ်ပွဲ)ဖြစ်ပွားချိန်မှာ လူကြီးတွေနဲ့အတူ နိုင်တဲ့ဘက်က ပါဝင် ကူညီပေးခဲ့ပါတယ်။

حلف الفضول (မတရားမှုကို ပူးပေါင်းတွန်းလှန်ခြင်းဆိုင်ရာ ပဋိညာဉ်) ပြုလုပ်ချိန်မှာလည်း ကိုယ်တော်ﷺဟာ ထိပ်ဆုံးကနေ ပါဝင်ခဲ့ပါတယ်။

ကအ်ဗာဟ်ကျောင်းတော်ကို ပြန်လည် မွမ်းမံတည်ဆောက်ချိန်မှာလည်း အကောင်းဆုံးပါဝင်တော်မူခဲ့ပြီး ပဋိပက္ခမီးများကို ငြိမ်းသတ်ခဲ့ပါတယ်။



## တတိယစာမျက်နှာ

( လူပျိုကောင်းတစ်ယောက်အတွက် လမ်းညွှန်ချက်များ)

ကိုယ်တော်မြတ်ﷺဟာ ကမ္ဘာတည်သရွေ့ ထွန်းကားလာကြမယ့် လူငယ်၊ လူပျိုအပေါင်းကို မိမိတို့ဟာ လူ့ဘဝပတ်ဝန်းကျင်ရဲ့ အနာဂတ် မျှော်လင့်ချက်များဖြစ်ကြောင်း၊ ကိုယ်နဲ့ပတ်သက်ပြီး ပတ်ဝန်းကျင်မှာ ယုံကြည်မှုတွေ တည်ဆောက်ထားရမှာဖြစ်ကြောင်း၊ စာရိတ္တ ပျက်ပြားခြင်း အစွန်းအထင်းတွေနဲ့ ဝေးဝေးနေရမှာဖြစ်ကြောင်း၊ ဒီနေ့ရဲ့ လုပ်ရပ်များဟာ မနက်ဖန်အတွက် နိဒါန်းမှတ်ချက်များဖြစ်ကြောင်း

ပျိုရွယ်ချိန်မှာ မပြိုသွားဖို့ အောက်ပါအတိုင်း မိန့်ကြားခဲ့ပါတယ်။

لاتزول قدما عبد يوم القيامة حتى يسأل عن أربع خصال ..... عن شبابه " فيما أبلاه (رواه الترمذي عن ابن مسعود )

လူသားဟာ လေးခုသော အရာကို မေးမြန်းခြင်းမခံရသေးဘဲ ကေယာမသ်နေ့မှာ တစ်လှမ်းမျှ တိုးရမှာ မဟုတ်ပါဘူး။ တစ်ခုကတော့ "အသင့်ရဲ့ နုပျိုချိန်ကို ဘယ်နေရာမှာ (ဘယ်လို အသုံးချခဲ့သလဲ) ဆိုတဲ့ မေးခွန်းပါ။

နစာအီကျမ်းလာ ဟဒီးဆ်တော်တစ်ပုဒ်မှာ " အိုမင်းခြင်း ရောက်မလာမီ အသင့်ရဲ့ နုပျိုချိန်ကို တန်ဖိုးထားပါ"လို့ ကိုယ်တော်ﷺ က မိန့်ခဲ့ ပါတယ်။

လူငယ်တွေအတွက် စိတ်ဓါတ်ခွန်အား ပြည့်သွားစေမယ့် မိန့်ခွန်းတစ်ခုကို မိန့်ကြားခဲ့ပါတယ်။ **"(၇)ဦး**သော သူတွေဟာ အရိပ် အာဝါသ ကင်းမဲ့နေတဲ့ ဟရှုရ်နေ့မှာ အရှင်မြတ်ကိုယ်တော်တိုင်က အရိပ် ချီးမြှင့်တော်မူပါမယ်။ ဒီ(၇)ဦးထဲက တစ်ဦးကတော့ **အရှင်မြတ်ကို ခဝပ် ဆည်းကပ်ခြင်း၌သာ မွေ့လျော်နေတဲ့ လူပျို"** ဖြစ်ပါတယ်။

အခုတင်ပြခဲ့တာတွေဟာ ကိုယ်တော်မြတ်ﷺရဲ့ နုပျိုချိန်နဲ့ ပတ်သက်တဲ့ အခန်းကဏ္ဍထဲကနေ အနည်းငယ်ကိုသာ ဆွဲထုတ် တင်ပြခြင်း ဖြစ်ပါတယ်။ စီရသ်ကျမ်းတွေထဲမှာ ဒီထက်မကတဲ့ ကိုယ်တော့်ရဲ့ နုပျို စဉ်ကာလအကြောင်းတွေကို ရေးသားဖော်ပြထားပါသေးတယ်။

အချုပ်ဆိုလိုချင်တာကတော့ ကျွန်ုပ်တို့ ကိုယ်တော်မြတ်ﷺဟာ ပျိုရွယ်ချိန်မှာ မပြုခဲ့ဘူးဆိုတာကို ယနေ့ခေတ် လူငယ်လူရွယ်တိုင်း၊ လူပျိုလေးတိုင်း မှတ်သား နာယူဖို့ပါပဲ။

## ၁၉။ ဆွေးရင်းလွမ်း လွမ်းရင်းဆွေးမယ် ရဗီအွလ်အောက်ဝလ်ရယ်

ကျွန်တော်ငယ်ငယ်က မိခင်ကြီး ရေးသားခဲ့တဲ့ "ရွှေခေတ်မှ လွမ်းစရာလေးများ"ဆိုတဲ့ စာအုပ်ရဲ့ အမှာစာမှာ အင်္ဂလိပ်စာဆိုလေး တစ်ခုကို မှတ်မှတ်ရလေးရှိနေပါတယ်။

**Youth lives on hope....**

**Old age on remembrance**

**"လူငယ်ဟာမျှော်လင့်ခြင်းနဲ့အသက်ရှင်ပြီး လူကြီးတွေကတော့ ပြန်လည်တမ်းတ၊ သတိရခြင်းများနဲ့ အသင်ရှင်ပါတယ်။"**

ဒီစာဆိုလေးကို အခြေခံပြီး ကိုယ်တော့်အွမ္မသ်သားများ ပီပီ ကျွန်တော်တို့ဟာ ကိုယ်တော်မြတ်ﷺကို ချစ်ခြင်းအားဖြင့် ကိုယ်တော့် အချစ်ကို မျှော်လင့်တမ်းတပါတယ်။ စီရသ်ကျမ်းတွေကို လေ့လာ ဖတ်ရှုရင်းဖြင့် ကိုယ်တော့်အကြောင်းကို သတိရတမ်းတမိပါတယ်။ လေ့လာဖို့ အသင့်ပြင်ပါတယ်။

ကိုယ်တော်မြတ်ﷺကို လွမ်းဆွတ်တမ်းတ သတိရနေတဲ့ အခိုက်အတန့်လေး တွေဟာ ရသသစ်ကို ပေးစွမ်းပါတယ်။

ကိုယ်တော့်အကြောင်း တစ်လုံးတစ်ပါဒမှ မဖတ်လိုက်ရတဲ့ နေ့တိုင်းဟာ အကျည်းတန်လွန်းပါတယ်။ **စီရသ် (ကိုယ်တော့်အတ္ထုပ္ပတ္တိ ကို လေ့လာဖို့ planner တစ်ခု လုပ်ကြပါစို့။**

ကိုယ်တော့်အပေါ် ချစ်ခြင်းများစွာနဲ့ ဒရူးဒ်တစ်ခေါက် မပို့လိုက်မိဘဲ ကုန်လွန်သွားတဲ့ နာရီတွေဟာလည်း တန်ဖိုးမဲ့လွန်းပါတယ်။

**မေ့တတ်လွန်းရင်လည်း တစ်နာရီတိုင်းမှာ ကိုယ်တော့်အပေါ် ဒရူးဒ်ပို့ဖို့ Reminder လေးတွေ ထားကြပါစို့....?**

ကိုယ်တော်မြတ်ﷺကို ချစ်တတ်အောင် မသင်ယူလိုက်ရတဲ့ နေ့ရက်တိုင်းကို ဘဝရဲ့ ဒိုင်ယာရီထဲကနေ ထုတ်ပစ်လိုက်သင့်ပါတယ်။ အဲ့ဒီတစ်ရက်တိုင်းဟာ စာမဖွဲ့ထိုက်လို့ပါ။

ဆွဟာဗဟ်ကြီးတွေ ကိုယ်တော့်ကိုချစ်တဲ့ ပုံစံဟာ ဆန်းကြယ်လှပါတယ်။

- အဗူဗကရ်ﷺသခင်ကြီးရဲ့ ကိုယ်တော့်ကို ချစ်တဲ့အရည်အသွေး၊ စံချိန်မီ လွန်းလို့ ကိုယ်တော်က သခင့်ကို خليل အချစ်ဆုံး ချစ်သူ လို့ ကြေညာခဲ့တာပါ။
- အုမရ် ﷺက ကိုယ်တော့်ကို ကျွန်တော့်ထက် ပိုချစ်သွားပါပြီ တဲ့။
- အွတ်ဆ်မားန်ﷺက " ငါချစ်တဲ့ကိုယ်တော်မပါဘဲ ကအ်ဗာကြီးကို သွဝါးဖ် မလုပ်သေးဘူး"တဲ့ ။ သခင်ဟာကိုယ်တော့်ရဲ့ ရင်နှစ်သည်းချာ အသဲနှစ်မွှာဖြစ်တဲ့ (ရိုကိုင်ယဟ်သခင်မနဲ့ အွမ္မေ့ ကုလ်ဆူမ်ﷺသခင်မတို့နဲ့) လက်ဆက်ခွင့်ရခဲ့တာပါ။

- အလီﷺသခင်ဟာ အချစ်ဘာမှန်းမသိသေးတဲ့အရွယ်ကတည်းက ကိုယ်တော့်ကို ချစ်မြတ်နိုးလွန်းလို့ ကိုယ်တော့်အနားမှာပဲ နေခဲ့တာပါ။
- လူမမယ်ကလေးငယ်လေး ဇိုင်ဒ်ဗင်န် ဟာရေ့ဆာﷺသခင် က "ပါပါတို့ပြန်ပါ တော့...။ သားကတော့ ဒီကိုယ်တော်မြတ်ကြီးကို ချစ်တယ်။ ဒီရစူလ်ကိုယ်တော်မြတ်ကြီးနားမှာပဲ ဘဝတစ်သက် ခစားရင်း ကုန်ဆုံးတော့မယ်တဲ့။
- ဗွလ်ခိုဝိုင်စွေ့ရဟ် အလ်ယမာနီﷺသခင်ကြီးက "ကောင်းမှုတွေ အများကြီးတော့ မလုပ်ရသေးပါဘူး။ ဒါပေမယ့် အလ္လာဟ်နဲ့ အလ္လာဟ့်ရစူလ်ကိုတော့ ရင်ထဲအသဲထဲမှာ စွဲနစ်နေအောင် ချစ်တတ်သွားပါပြီ"တဲ့။
- ဆိုမာမားﷺ သခင်က အစ္စလာမ်လက်ခံပြီးတာနဲ့ "ကျွန်တော့် ထံမှာ ကိုယ်တော့်ရဲ့ ရွှေမျက်နှာတော်ဟာ ကမ္ဘာမှာ ချစ်စရာ အကောင်းဆုံးပါ" တဲ့ ။
- အနတ်စ်ﷺသခင်က " ကိုယ်တော့်ကို အရာအားလုံးထက် မချစ် တတ်သေးရင် အီမာန် မပြည့်ဝသေးဘူး"ဆိုတဲ့ ဟဒီးဆ် တော်ကို ဆင့်ပြန်ပေးပြီး အနတ်စ်သခင်တို့ မိသားစုတစ်ခုလုံးက ကိုယ်တော့်ကို ချစ်နည်းချစ်ဟန်တွေ သင်ပြပေးထားပါတယ်။

- ဆွဟာဗီအမျိုးသား၊ ဆွဟာဗီယာအမျိုးသမီးတစ်ဦးတိုင်းဟာ ပြိုင်စံရှား အချစ်တွေနဲ့ ကိုယ်တော့်ကို ချစ်ပြသွားတာပါ။

**ဒီအချစ်တွေကို သင်ယူဖို့ ကျွန်တော် အဆင်သင့်ဖြစ်ပြီလား....။**

**ကိုယ်တော့်ကို လွမ်းဆွတ်ရင်း ကျွန်တော့်ပါးပြင်ထက် မျက်ရည်စ တွေ ခ ဖူးပြီလား...။**

"အိပ်မက်မှာ ကိုယ်တော့်ကို မြင်မက်တာဟာ အမှန်တကယ် ကိုယ်တော့်ကို မြင်မက်ခြင်းပဲ ၊ ရှိုင်သွာန်ဟာ ကိုယ်တော်ယောင် မဆောင်နိုင်ဘူး"ဆိုတော့ ကျွန်တော့် အိပ်မက်တွေဟာ ချစ်နဗီကို မြင် မက်ခြင်းတွေနဲ့ စည်ကားခမ်းနားနေပြီလား...။

وما كنتُ أدري قبل عزة ما البُكا

ولا مُوجعاتِ القَلْبِ حتى تولَّت

"ချစ်ရသူ အဇ္ဇဟ်နဲ့မတွေ့ခင်တုန်းက ငိုယိုခြင်းတွေ၊ နှလုံးသား ကိုနာကျင်စေတဲ့အရာတွေဆိုတာ ဘာမှန်းမသိခဲ့ပါဘူး။ သူမ သွားလိုက် ချိန်မှပဲ.... လို့ စပ်ဆိုခဲ့တဲ့ ကဗျာဆရာကြီး ကိုဆိုင်ယစ်ရ်ရေ...

စာဆိုတော်ကြီး ဒီကဗျာမှာ သုံးတဲ့စကားလုံးတွေကို၊ ဖန်တီးနိုင် စွမ်းတွေကိုတော့ အသိအမှတ်ပြုပါတယ်။ အဲ့ဒီစကားလုံးလေးတွေကို အားနာတယ်လို့လည်း ပြောပေးပါ။

ကျွန်တော်တို့ ကိုယ်တော့်ရဲ့ အွမ္မသီတွေကတော့ ကိုယ်တော့် အရင် အနှစ်သာရရှိပြီး ပီတိတွေဝေဖြာစေတဲ့ အလွမ်းဆိုတာ ဘာမှန်း မသိကြပါဘူး။

ကိုယ်တော့်စီရသ်ကို မလေ့လာခင်၊ ကိုယ်တော့်အကြောင်းတွေ မကြားဖူးခင်အရင်က အချစ်စစ်ဆိုတာလည်း ဘာမှန်းမသိခဲ့ပါဘူး။ ဆေး ဆိုးပန်းရိုက်အချစ်တွေ၊ ခံစားချက်မဲ့တဲ့ တမ်းတခြင်းတွေကိုလည်း နား မလည်နိုင်ခဲ့ပါဘူး။ ကိုယ်တော့်အကြောင်းသိလိုက်ရမှပဲ.....၊ ကိုယ်တော့် စီရသ် ဖတ်လိုက်ရမှပဲ အချစ်တွေ၊ အလွမ်းတွေ၊ တမ်းတ ခြင်းတွေ၊ မျှော်လင့်ခြင်းတွေဆိုတာဟာ သင်ယူရတာပါလား...။လို့ သဘော ပေါက်မိပါတယ်။

ဒီသင်ခန်းစာတွေကို အသက်နဲ့လဲပြီး၊ ဘဝကြီးတစ်ခုလုံး ပေး ဆပ်ပြီး သင်ပေးခဲ့တဲ့ အချစ်လမ်းပြကြယ် ဆွဟာဗာကြီးတွေကို အားနာ တယ်လို့ ပြောပေးပါ။

ကိုယ်တော့်စီရသ်ရဲ့ သင်းရနံ့လေးတွေ၊ ကိုယ်တော့်အတ္ထုပ္ပတ္တိရဲ့ မိုးစက်ကလေးတွေကို သယ်ဆောင်လာပေးတဲ့ ... ရဗီအွလ်အောက်ဝလ် ရဲ့ ဆန်းဦးစလလေးကို ဒီညမှာ ကျေးဇူးတင်ပါတယ်လို့ ပြောကြရ အောင်။ အမလ်တွေတော့ အများကြီး မလုပ်နိုင်သေးပါဘူး။

ဒါပေမဲ့ အလ္လာဟ်အရှင်မြတ်နဲ့ အလ္လာဟ့်ရစူလ် ချစ်တမန်တော် တို့ကိုတော့ ရင်ဘတ်ကြီးနဲ့ နှလုံးသားအပြည့် ချစ်ပါရစေ။ အသဲနှလုံး တစ်ခုလုံးနဲ့ လွမ်းပါရစေ၊

**ဒီအလွမ်းတွေနဲ့ တမ်းပါရစေ.... ကိုယ်တော် ﷺရယ်။**

## ၂၀။ ခင်ပွန်းပီသခဲ့သော ကိုယ်တော်မြတ် ﷺ

ကိုယ်တော်မြတ်ﷺရဲ့ သက်တော် (၂၅)နှစ်ကို ရောက်ရှိခဲ့ပါပြီ။ ခဒီဂျာသခင်မကြီးရဲ့ ကမ်းလှမ်းမှုကြောင့် သခင်မကြီးနဲ့ လက်ဆက်ဖြစ်ခဲ့ပါတယ်။ အိမ်ထောင်ကျပြီး နောက်ပိုင်းမှာ အကောင်းဆုံး ခင်ပွန်းကောင်းတစ်ဦးအဖြစ် ရပ်တည်ပြသပေးခဲ့ပါတယ်။ မိမိရဲ့ အိမ်ထောင်ရေးကို ခွင့်လွှတ်နားလည်မှုတွေ ခင်းကျင်း၊ အချစ်တွေနဲ့ ခြံရံ၊ အကြင်နာ တွေနဲ့ထူထောင်ခဲ့ပါတယ်။ အသက်မှာ ကွာဟပေမယ့်လည်း သခင်မ ကြီးဟာ ကိုယ်တော်မြတ်ﷺကို ခင်ပွန်းပီသသူအဖြစ်သာ တွေ့ခဲ့ရပါ တယ်။ ကိုယ်တော်ရဲ့ ခင်ပွန်းတာဝန်ကျေပွန်ခဲ့မှုတွေကြောင့် ကျေနပ် နှစ်သက်ခဲ့ရပါတယ်။

တစ်ဖက်မှာ ခင်ပွန်းကောင်းတစ်ဦးအဖြစ် ရပ်တည်နေတဲ့ ကိုယ်တော်မြတ် ﷺဟာ ပတ်ဝန်းကျင်မှာရှိနေသမျှ လူသားတွေအနက် ငယ်ရွယ်သူတွေအတွက် အစ်ကိုကောင်းတစ်ဦး၊ ကြီးသူတွေအတွက် သားကောင်းတစ်ဦးဖြစ်ခဲ့ပါတယ်။ မက္ကာဟ်တစ်ခွင်မှာ အားကိုးထိုက်ဆုံး သူတစ်ဦးဖြစ်ခဲ့ပါတယ်။ ပရဟိတလုပ်ငန်းတွေမှာ ထိပ်ဆုံးကနေ ပါဝင် ပေးခဲ့ပါတယ်။

ကိုယ်တော်မြတ်ﷺ ဟေရာလှိုင်ဂူကအပြန်မှာ ဝဟီဗျာဒိတ်ဟာ ရဲ့ တာဝန်ကြီးမှုကြောင့် တုန်လှုပ်ချောက်ချားနေပါတယ်။ ချစ်ဇနီး ခဒီဂျာသခင်မကြီးကို မိမိအသက်နဲ့ပတ်သက်ပြီးပင်လျှင် စိုးရိမ်နေကြောင်းပြောကြားတဲ့အခါ သခင်မကြီးရဲ့ ဖြေသိမ့်ချက်တွေမှာ

ကိုယ်တော်ဟာ လူသားဆန်သူ ဖြစ်ကြောင်း၊ လူသားထုတစ်ရပ်လုံးရဲ့ အားကိုးထိုက်တဲ့ ခေါင်းဆောင်တစ်ဦးဖြစ်ကြောင်း၊ ပတ်ဝန်းကျင်မှာ လူသားဝါဒကို ဖြန့်ချိသူဖြစ်ကြောင်း ထင်ဟပ်ပေါ်လွင်နေပါတယ်။ သခင်မကြီးက…

كَلَّا، أَبْشِرْ، فَوَاللَّهِ لا يُخْزِيكَ اللَّهُ أَبَدًا؛ إِنَّكَ لَتَصِلُ الرَّحِمَ، وتَصْدُقُ الحَدِيثَ، وتَحْمِلُ الكَلَّ، وتَقْرِي الضَّيْفَ، وتُعِينُ علَى نَوَائِبِ الحَقِّ،

လုံးဝမစိုးရိမ်ပါနဲ့ မောင်တော်ရယ်၊ သတင်းကောင်းသာ ရယူလိုက်ပါ။ အရှင်မြတ်ရဲ့ ကစမ်၊ ထိုအရှင်မြတ်က မောင်တော်ကို ဘယ်တော့မှ သေးသိမ်စေမှာ မဟုတ်ပါဘူး။ မုချမောင်တော်ဟာ ဆွေမျိုးဆက်သူဖြစ်ပါတယ်။ မှန်သောစကားကိုသာ ဆိုပါတယ်။ လူသားတွေရဲ့ ဝန်ထုပ်ဝန်ပိုးတွေကို ကူညီသယ်ဆောင်ပေးပါတယ်။ ဧည့်သည်တွေကို ဧည့်ဝတ်ပြုသူဖြစ်ပါတယ်။ အမှန်တရားပေါ် အခြေခံပြီး ပေါ်ပေါက်လာတဲ့ လောကဓံရဲ့ ဒုက္ခသင့်သူတွေကို ကူညီသူဖြစ်ပါတယ်။”လို့ ဖြေသိမ့်ခဲ့ပါတယ်။

- ကိုယ့်အတွက် တည်ဆောက်ရမဲ့အချိန်မှာ အများအကျိုးကို သယ်ပိုးပေးခဲ့တဲ့ ကိုယ်တော်…။
- ဒုက္ခရောက်သူတွေ အားကိုးရတဲ့ ကိုယ်တော်… ။
- ဧည့်သည်တွေကို မျက်နှာမငယ်စေတဲ့ ကိုယ်တော်…။
- လောကရဲ့ ဝန်တွေကို ချပေးခြင်းမှသည် တမလွန်ရဲ့ ဝန်တွေကို ချ ပေးတော်မူခဲ့တဲ့ ကိုယ်တော် …။

## ၂၁။ ကိုယ်တော်မြတ်ﷺ မျှော်လင့်မထားသော ဝဟီနိဒါန်း

ကိုယ်တော်မြတ်ﷺရဲ့ သက်တော် (၄၀)ပြည့်ခဲ့ပါပြီ။ လက်ရုံးရည်၊နှလုံးရည်၊ ဉာဏစွမ်းရည်တို့ ပြည့်စုံကုံလုံချိန်ပေါ့။ ဒီအချိန် ဒီအခြေအနေမှာ မြင့်မြတ်တော်မူသော အရှင်မြတ်က ကိုယ်တော်မြတ်ﷺကို နဗီဘွဲ့ထူးချီးမြှင့်ခဲ့ပါတယ်။

ပညာရှင်များရဲ့ တွက်ချက်မှုအရ ဩဂုတ်လ(၆)ရက်၊ ခရစ်နှစ် (၆၁၀)၊ ရမ်ဇာန်လမြတ်မှာ ကောင်းကင်တမန်တော် ဂျိဗ်ရအီလ်عَلَيْهِ ٱلسَّلَامُက ပထမဆုံး ဝဟီဗျာဒိတ်တော်ဖြစ်တဲ့ စူရဟ် အလတ်ကဲ်ရဲ့ ပထမဆုံး အာယသ်တော် (၅)ပိုဒ်ကို ပို့ချပေးခဲ့ပါတယ်။

اقْرَأْ بِاسْمِ رَبِّكَ الَّذِي خَلَقَ (١) خَلَقَ الْإِنْسَانَ مِنْ عَلَقٍ (٢) اقْرَأْ وَرَبُّكَ الْأَكْرَمُ (٣) الَّذِي عَلَّمَ بِالْقَلَمِ (٤) عَلَّمَ الْإِنْسَانَ مَا لَمْ يَعْلَمْ(٥)

အသင် မိမိကိုဖန်ဆင်းတော်မူသော အရှင်မြတ်ရဲ့ နာမတော်နဲ့ ဖတ်ပါ၊ ထိုအရှင်မြတ်က လူသားကို သွေးခဲကနေ ဖန်ဆင်းတော်မူခဲ့ပါတယ်။ အသင်ဖတ်ပါ..၊ အသင့်ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဟာ အလွန်တရာ ပေးကမ်းရက်ရောတော်မူပါတယ်။ ထိုအရှင်မြတ် က လူသားကို ကလောင်တံရဲ့ အကြောင်းခံနဲ့ သင်ကြားပေးသနားတော် မူပါတယ်။ လူသားမသိရှိသေးသမျှ အရာတွေကို သင်ကြားတော်မူပါတယ်။ (စူရဟ်-၉၆-အာယသ် ၁မှ၅ထိ)

မှောင်မိုက်နေတဲ့ ကမ္ဘာကြီးအတွက် မိုးကောင်းကင်ထက်ကနေ ပထမဆုံး ကျရောက်လာတဲ့ ဝဟီက اقرأ (အသင်ဖတ်ပါတဲ့..။) ဒီကိုယ်တော်နဲ့ ဒီအွမ္မသ်ဟာ ပညာရေးကို ဦးထိပ်ပန်ဆင်ရမယ်၊ လေ့လာ ဖတ်ရှုတ်ခြင်းတွေနဲ့ အရာရာကို သင်ယူရမယ်ဆိုတဲ့ သဘော ပါ။

**"တိုးတက်သောလူမျိုးတိုင်း စာဖတ်ကြသည်"**ဆိုတာထက် ပိုတဲ့ အတွေးတစ်ခုကို လက်ဆင့်ကမ်းခဲ့ပါတယ်။ နှစ်ဘဝအောင်မြင်လိုသူ တိုင်း စာဖတ်ရမယ်....။ ဘာကိုပဲဖတ်ဖတ် အရှင့်နာမတော်ကို ဦးထိပ်ပန် ဆင်ရမယ်၊ ဖတ်လေတတ်လေပါပဲ။ တတ်လာတဲ့လူသားကို အတတ် မကျူးစေဖို့လည်း တစ်ပါတည်း ကုစားနည်း သင်ပေးထား ပါတယ်။ တတ်ပြီးရင် ကိုယ့်ကိုယ်ကို အသင်ဟာ ဘာမှစာမဖွဲ့ထိုက်တဲ့ သွေးခဲ တစ်ခုနဲ့ ဖန်ဆင်းခံခဲ့ရတာပါလို့ သတိပေးလိုက်ပါတယ်။

ဖတ်သမျှ တတ်ပါမယ်၊ တတ်သမျှကိုလည်း မှတ်ရမယ်ဆိုပြီး အရှင်မြတ်က ရေးသားမှတ်တမ်းတင်ဖို့ ခေတ်အဆက်ဆက် ရေးသားခဲ့ တဲ့ ကိရိယာအကြောင်းကို ထည့်သွင်းဖော်ပြထားပါသေးတယ်။ မသိ ခြင်းကို အသိပညာရှာဖွေခြင်းနဲ့ ကုစားရမယ်၊ လူသားကို အရှင်မြတ် ကိုယ်တော်တိုင်က သင်ကြားပေးနေတာဖြစ်တယ် ဆိုတဲ့ သတင်းစကား နဲ့ ပထမဆုံး ဝဟီကို အဆုံးသတ်ထားပါတယ်။ ဒီဝဟီချီးမြှင့်ခံရခြင်းနဲ့ တူ ကျွန်တော်တို့ ကိုယ်တော်မြတ်ﷺဟာ နဗီ ဘွဲ့ထူးကိုပါ ရရှိခဲ့ပါ တယ်။

ကိုယ်တော်မြတ်ﷺကို အရှင်မြတ်ကိုယ်တော်တိုင်က သင်ကြားပေးတော်မူခဲ့ပြီး၊ ဘယ်လိုလူသား တစ်ဦး၊ တစ်ယောက်ဆီမှာမှ ကိုယ်တော်မြတ်ﷺကို တပည့်မခံစေခဲ့ပါဘူး။ ဒါဟာမြင့်မြတ်တော်မူသော အရှင်မြတ်ရဲ့ စီမံမှုပါ။ ပြီးတဲ့နောက်ပိုင်းမှာ ကမ္ဘာတည်သရွေ့ ထွန်းကားပေါက်ဖွားလာမယ့် လူသားထုတစ်ရပ်လုံး အတွက် နှစ်ဘဝ အောင်မြင်မှုသော့ချက်တွေကို သင်ကြားပေးတော်မူခဲ့ပါတယ်။

ကိုယ်တော်မြတ် ﷺရဲ့ သွန်သင်ချက်တွေ၊ လမ်းညွှန်ချက်တွေကို ကျွန်ုပ်တို့အားလုံး ဘဝမှာ ဆင်ယဉ်ချယ်သမှသာ အောင်မြင်နိုင်မှာပါ။ ဒီသွန်သင်ချက်တွေကို နားလည် သဘောပေါက်ဖို့ ကျွန်တော်တို့အားလုံး စာတတ်ရပါမယ်၊ စာတတ်ဖို့အတွက် စာဖတ်ရပါမယ်၊ ဖတ်ထားသမျှ တွေကိုလည်း မှတ်သားထားရမှာဖြစ်ကြောင်း ပထမဆုံး ဝဟီတော်က ကျွန်ုပ်တို့အားလုံးကို လမ်းညွှန်နေပါတယ်။

# إِقْرَأْ

## အသင်ဖတ်ပါ..........။

## ၂၂။ ဟေရာလှိုင်ဂူကအပြန် မြတ်တမန် ﷺ

ဟေရာလှိုင်ဂူဆိုတာ မက္ကာရွှေမြို့တော်နဲ့ (၃)မိုင်အကွာမှာရှိတဲ့ နူးရ်တောင်အတွင်းက လှိုင်ဂူတစ်ခုပါ။ ကျွန်ုပ်တို့ လူသားမျိုးနွယ်စု အတွက် အရေးပါဆုံး လှိုင်ဂူတစ်ခုပါပဲ။

ကိုယ်တော်မြတ်ﷺဟာ နဗီဘွဲ့ထူး ချီးမြှင့်ခြင်းမခံရမီ လူတို့နဲ့ဝေး ရာ ဒီလှိုင်ဂူမှာ တရားအားထုတ်နေခဲ့ပါတယ်။ အရှင်မြတ်နဲ့ သီးသန့် ဆက်သွယ်နေခဲ့ပါတယ်။ ကိုယ်တော်မြတ်ﷺဟာ ဒီလှိုင်ဂူထဲ မှာပဲ ပထမဆုံး ဝဟီနဲ့ နဗီဘွဲ့ထူးကို ချီးမြှင့်ခြင်းခံခဲ့ရတာပါ။

ဟေရာလှိုင်ဂူကအပြန် ကိုယ်တော်မြတ်ﷺက အရှင်မြတ် တစ်ပါးတည်း တည်ရှိကြောင်း၊ ကိုယ်တော်ဟာ နဗီဖြစ်ကြောင်းကို ပထမဆုံး ချစ်ဇနီး ခဒီဂျာ ؓကို တင်ပြခဲ့ပါတယ်။ ပြီးနောက် ကျွန်တော် ဇိုင်ဒ် ؓ၊ ပြီးနောက် အတူနေ ဝမ်းကွဲညီအစ်ကို အလီؓတို့ကို တင်ပြခဲ့ပါတယ်။ ဒါဟာ ပထမဆုံး ကိုယ်တော်မြတ်ﷺရဲ့ ဒအ်ဝသ် (အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်ခြင်းအစ)ပါ။ ကိုယ့်မိသားစုအတွင်း စတင်ကြိုးပမ်းခြင်းပါ။ ဒီကနေတဆင့် အဗူဗက်ရ်ؓသခင်ကြီးကို ဖိတ်ခေါ်ခဲ့ပါတယ်။ ကိုယ်နဲ့အနီးဆုံး မိတ်ဆွေရင်းချာတွေအတွက် ကြိုးပမ်းမှု တစ်ရပ်ပေါ့။ ကိုယ်တော်မြတ်ﷺဟာ နဗူဝသ်ရပြီးချိန်ကနေ (၃)နှစ် အတွင်း ဒီလိုကြိုးပမ်းခဲ့တာပါ။

ကိုယ်တော့်သက်တော် (၄၃)နှစ်အထိလို့လည်း မှတ်သားထားနိုင်ပါတယ်။

နဗီဘွဲ့ထူးချီးမြှင့်ခံရပြီး (၅)နှစ်အကြာ၊ ကိုယ်တော့် သက်တော် (၄၅)နှစ်အတွင်းမှာ ကိုယ်တော်မြတ် ﷺဟာ ဆွေမျိုးရင်းချာအပေါင်းနဲ့ ရပ်ဆွေ၊ရပ်မျိုးတွေဖြစ်ကြတဲ့ မက္ကာဟ်မြို့နေ ပုဂ္ဂိုလ်အပေါင်းကို ဆွဖာ တောင်ပေါ်ကနေ အရှင့်ဘက်ကို ဖိတ်ခေါ်ခဲ့ပါတယ်။

قولوا لا إله إلا الله تفلحون

အသင်တို့ لا إله إلا الله (အရှင်မြတ်မှတစ်ပါး အခြားခဝပ် ကိုးကွယ်ခြင်း ခံထိုက်သူမရှိ)လို့ ဖတ်လိုက်ကြပါ။ အသင်တို့ နှစ်ဘဝ အောင်မြင်သွားပါ လိမ့်မယ်လို့ မိန့်ကြားခဲ့ပါတယ်။

ဆွေမျိုးသားချင်း အရင်းအချာတွေ ရပ်ဆွေရပ်မျိုးတွေကို အရှင်မြတ်ဘက် ဖိတ်ခေါ်ပြီးချိန်မှာ မက္ကာဟ်ရွှေမြို့တော်ကို ကူးသန်းရောင်းဝယ်ဖို့ ရောက်ရှိလာတဲ့ ကုန်သည်အုပ်စုတွေဆီသွားရောက်ပြီး အရှင်မြတ်ဘက်တော်ကို ဒအ်ဝသ်ပေးဖိတ်ခေါ်ခဲ့ပါတယ်။

ဒီလိုသွားရောက်တဲ့နေရာမှာ တစ်ခါတလေ ကိုယ်တော်မြတ်ﷺ တစ်ပါးတည်းသွားရောက်ခဲ့ပြီး တချို့အခေါက်တွေမှာ အဗူဗက်ရ်ؓ သခင်ကြီးလည်း ပါဝင်ခဲ့တယ်လို့ သမိုင်းမှတ်တမ်းတွေက သက်သေထူနေပါတယ်။

နဗီဘွဲ့ထူးချီးမြှင့်ခံရပြီးချိန် (၆)နှစ်၊ ကိုယ်တော့် သက်တော် (၄၆)နှစ်ကနေ (၅၀)ဝန်းကျင်မှာ မက္ကာဟ်မြို့တွင်း ကြိုးပမ်းခြင်းမှတဆင့်

မက္ကာဟ်မြို့ပြင်ထွက်ပြီး ကြိုးပမ်းမှုကို စတင်ခဲ့ပါတယ်။ မက္ကာဟ်မြို့တော်နဲ့ မိုင်(၆၀)ခန့်အကွာမှာရှိတဲ့ သွာအိဖ်မြို့သူမြို့သားတွေ၊ သူတို့ရဲ့ ခေါင်းဆောင်ပိုင်းတွေကို အရှင်မြတ်ဘက်တော် ဖိတ်ခေါ်ဖို့ ကြွမြန်းခဲ့ပါတယ်။ ချက်ချင်းလက်ငင်းရလဒ်ကောင်းတွေ မရရှိခဲ့ပေမယ့်လည်း နောက် (၁၀)စုနှစ်အတွင်းမှာပဲ သွာအိဖ်မြို့သူ၊ မြို့သားအများစုဟာ အစ္စလာမ်လက်ခံ လာခဲ့ပါတယ်။

ကိုယ်တော်မြတ်ﷺဟာ လူ့ကမ္ဘာအတွက်ပဲမဟုတ်ဘဲ လောကတစ်ခုလုံးအတွက် စေလွှတ်တော်မူခြင်းခံခဲ့ရတာပါ။ ဒါကြောင့် လူ့လောကအပြင် ဂျင်န်တွေနေတဲ့ အရပ်ကိုလည်း ဆွဟာဗာကြီး အိဗ်နေ့ မတ်စ်အူးဒ်ؓသခင်နဲ့အတူ ကြွမြန်းတော်မူခဲ့ပါတယ်။

ကိုယ်တော့်သက်တော် (၅၀)နှစ်(၃)လမှာ တူရကီနိုင်ငံ နစ္စီဗီးန်မြို့ကနေ ဂျင်န်အချို့ ကိုယ်တော့်ထံ အခစားဝင်ပြီး အစ္စလာမ်သာသနာ လက်ခံခဲ့ကြပါတယ်။

အဖန်ဆင်းခံအပေါင်းကို အရှင်မြတ်ဘက်ဖိတ်ခေါ်ခြင်း တာဝန်ကို အသက်၊သွေး၊ ချွေးများ စတေးပြီး စွမ်းစွမ်းတမံဆောင်ရွက်ခဲ့တဲ့ မြတ်ကိုယ်တော်ﷺကို ဖြေသိမ့် ဂုဏ်ပြုတဲ့အနေနဲ့၊ ဒီကိုယ်တော်ဟာ တစ်လောကလုံးထက် မြင့်မြတ်ကြောင်း သက်သေထူတဲ့အနေနဲ့ သက်တော် (၅၁)နှစ်၊ (၉)လမှာ မြင့်မြတ်တော်မူသော အရှင်မြတ်က ကိုယ်တော့်ကို ဗိုင်သွလ်မုကဒ္ဒတ်စ်မှတဆင့် မိအ်ရားဂျ် ကောင်းကင်ဘုံခရီးကို ဂျိဗ်ရအီးလ်သခင်ကြီးနဲ့အတူ ပင့်ဆောင် ခေါ်ယူတော်မူခဲ့ ပါ

တယ်။ မိအ်ရားဂျ်(ကောင်ကင်းဘုံခရီးစဉ်)ခေါ်ယူရခြင်းရဲ့ အနှစ်သာရတွေ၊ အမြုတေတွေကိုတော့ အရှင်မြတ်မှတစ်ပါး ဘယ်သူမှအတိအကျမသိနိုင်ပါဘူး။ ဉာဏ်မီသလောက် တင်ပြရရင်တော့-

- ကိုယ်တော်ဟာ ပွင့်လေသမျှ နဗီ၊ ရစူလ်အပေါင်းရဲ့ခေါင်းဆောင် ဖြစ်ကြောင်း။
- ကိုယ်တော့်ရဲ့နောက်ပိုင်း ခေတ်တွေဟာ IT ခေတ်၊ နည်းပညာခေတ်တွေဖြစ်ပြီး မြင့်မြင့်ပျံသန်းနိုင်သူတွေဟာ လူသားတို့ရဲ့အထင်အကြီးခံပုဂ္ဂိုလ်များ ဖြစ်လာမည်ဖြစ်ကြောင်း၊ သို့သော်လည်း မည်သူမှ မတက်ရောက်နိုင်သည့် အရှင်မြတ်စံမြန်းရာအရရှ်ပလ္လင်တော်အနီး စိဒ်ရသွလ် မွန်သဟာထိ ကိုယ်တော် ﷺ ကို ပင့်ဆောင်ပြီး အသင်တို့အမြင့်ပျံနိုင်တာဆုံးတဲ့နေရာကနေ ငါ့ကိုယ်တော်ရဲ့ အဆင့်ဟာ စ ပါတယ်လို့ အရှင်မြတ်ဘက်တော် မှ ထုတ်ပြန်ခြင်း။
- နောင်လာမယ့် နှစ်တွေမှာ ကြုံတွေ့ရမယ့် ခက်ခက်တဲ့ အချိုးအကွေ့တွေကို ကြံ့ကြံ့ခံနိုင်စေရန် အင်အား ဖြည့်တင်းခြင်းများကို ကောင်းကင်ဘုံခရီးမှာ အရှင်မြတ်က စီမံတော်မူခြင်းတွေလို့ သိရပါတယ်။

ကိုယ်တော်မြတ် ﷺ ရဲ့ သက်တော် (၅၃)နှစ်၊ ဟစ်ဂျ်ရီ(၁)ခု၊ ဆွဖရ်လ (၂၆)ရက်နေ့မှာ မက္ကာဟ်မြို့နေ ကာဖိရ်အပေါင်းက ကိုယ်တော် ﷺ ကို လုပ်ကြံဖို့ စီစဉ်ခဲ့ပါတယ်။

ခရစ်နှစ်(၆၂၂)၊ ဆွဖရ်လ (၂၇)ရက်နေ့မှာ ကိုယ်တော်ﷺဟာ အင်မတန်မှ တွယ်တာရတဲ့မြို့မက္ကာဟ်၊ (၅၃)နှစ်တာ နေထိုင်ခဲ့တဲ့ ဇာတိမြေကို စွန့်ခွာပြီး မဒီနာရွှေမြို့တော်ကို ဟစ်ဂျ်ရသ်ပြု ပြောင်းရွှေ့တော်မူခဲ့ပါတယ်။

နဗီဘွဲ့ထူးချီးမြှင့်ခံရပြီး မက္ကာဟ်မြို့မှာ နေထိုင်ခဲ့စဉ် (၁၃)နှစ်တာကာလမှာ ကိုယ်တော်မြတ်ﷺဟာ အဖန်ဆင်းခံအပေါင်းကို အရှင်မြတ်ဘက် တော်သို့ ဖိတ်ခေါ်ခဲ့ပါတယ်။ အရှင်မြတ်နဲ့ ဆက်သွယ်ပေးတော်မူခဲ့ပါ တယ်။

ဒီလို ဖိတ်ခေါ် ဆက်သွယ်ပေးတဲ့နေရာမှာ အခြေအနေအချိန်အခါမရွေး၊ လူတန်းစားမရွေး၊ ကျောသားရင်သားမခွဲခြား၊ နေရာဒေသ မခွဲခြားဘဲ။ ဘယ်အချိန်၊ ဘယ်အခြေအနေမှာ ဘယ်လိုပုံစံလေးက မိမိရဲ့ ဒအ်ဝသ်(အရှင်မြတ်ဘက်ကို ဖိတ်ခေါ်ခြင်း) အတွက် အထိရောက်ဆုံးဖြစ်မလဲ အဲ့ဒီပုံစံ နည်းဟန်ကို အသုံးပြုခဲ့တာဟာ ဒီနေ့ စီရသ်သင်ခန်းစာ ရဲ့ အရေးပါတဲ့ ပေးစာ တစ်ခုလို့ ပြောကြားလိုပါတယ်။

## ၂၃။ မြတ်ကိုယ်တော်နှင့် ဟစ်ဂျ်ရသ်ခရီး

ဟစ်ဂျ်ရီ(၁)ခုနှစ်၊ ဆွဖရ်လ (၂၇)ရက်နေ့၊ ခရစ်နှစ်(၆၂၂)မှာ ကိုယ်တော်ﷺဟာ အဗူဗကဲရ်﵁သခင်နဲ့အတူ မဒီနာရွှေမြို့တော်ကို ဟစ်ဂျ်ရသ်ပြု ဦးတည်ခဲ့ပါတယ်။ ကာဖိရ် မုရှ်ရိက်တို့ကလည်း ကိုယ်တော်ﷺ မဒီနာ မရောက်ရှိရေးအတွက် နည်းလမ်းအသွယ်သွယ် သုံးပြီး ကြိုးစား ကြပါတယ်။ သို့ပေမယ့်လည်း မအောင်မြင်ခဲ့ကြပါ။

ကာဖိရ်မုရှ်ရိက်တို့ရဲ့ နောက်ယောင်ခံ လိုက်နေမှုများကြောင့် မက္ကာမြို့တော်နဲ့ (၄)ကီလိုမီတာဝေးတဲ့ ဆောင်ဝ်ရ်လှိုင်ဂူအတွင်းမှာ ခဏတာ အနားယူတော်မူခဲ့ပါတယ်။ ဒီလှိုင်ဂူအတွင်းမှာ အွမ္မသ် အတွက် တန်ဖိုးမဖြတ်နိုင်တဲ့ စီရသ် မှတ်စုတွေရှိနေပါတယ်။ အခက် အခဲကြုံ ကြိုက်နေရတဲ့ကာလတွေကို အရှင်မြတ်အကူအညီနဲ့ ဘယ်လို ကျော် ဖြတ်ရမလဲဆိုတဲ့ နည်းလမ်းတွေကို သင်ကြားပေးလိုက်တာပါ။

ကိုယ်တော်ﷺနဲ့ အဗူဗကဲရ်သခင်တို့ လှိုင်ဂူအတွင်း ရှိနေခိုက် လှိုင်ဂူဝအထိ ကာဖိရ်မုရှ်ရိက်တွေရောက်ရှိလာပါတယ်။ တစ်လှမ်းတိုး လိုက်တာနဲ့ မြင်နိုင်တော့မယ့် အနေအထားထိ နီးကပ်လာခဲ့ပါတယ်။

အဗူဗကဲရ်﵁သခင်ကြီးက " အို...ကိုယ်တော် ၊ သူတို့တစ်လှမ်း တိုးလိုက်တာနဲ့ ကျွန်တော်တို့ကို မြင်တော့မှာ"လို့ စိုးရိမ်ပူပန်ပြီး ပြောဆို ချိန်မှာ ကိုယ်တော်မြတ်ﷺက لاتحزن إن الله معنا "အသင်သော ကမဖြစ်ပါနဲ့။ မြင့်မြတ်တော်မူသော အရှင်မြတ် ငါတို့နဲ့အတူ ရှိနေပါ တယ်။" လို့ အားပေးမိန့်ကြားခဲ့ပါတယ်။

ပူဆွေးသောက ရောက်နေသူတိုင်း၊ ဝမ်းနည်းနေသူတိုင်း၊ အခြေအနေတိုင်းဟာ အန္တတ်လက္ခာဆောင်နေတဲ့သူတိုင်း ကျက်မှတ်ထား ရမယ့် စီရည်သင်ခန်းစာတစ်ခုပါ။ "အရှင်မြတ် ကျွန်တော်တို့နဲ့အတူ ရှိနေပါတယ်။" အရှင်မြတ်သာလျှင် ကျွန်တော်တို့ဘဝအတွက် လုံလောက် တော်မူပါတယ်။ အရှင့်စောင့်ရှောက်မှု ခြံရင် ကျွန်တော်တို့ ဘဝဟာ လုံခြုံပါတယ်ဆိုတဲ့ သဘောပါ။
ဒီသင်ခန်းစာလေးကို ဘဝရဲ့ အချိုးအကွေ့တိုင်းမှာ မေ့မပစ်လိုက်ပါနဲ့။

ဒီလိုနဲ့ ဟစ်ဂျ်ရီ(၁)ခု၊ ရဗီအွလ်အောက်ဝလ် (၁၂)ရက်၊ ခရစ်နှစ် (၆၂၂)ခု၊ စက်တင်ဘာလ (၂၇)ရက်၊ သောကြာနေ့မှာ ကိုယ်တော်မြတ် ﷺဟာ မဒီနာရွှေမြို့တော်ကို ရောက်ရှိတော်မူခဲ့ပါတယ်။

ကိုယ်တော်မြတ် ﷺ မဒီနာမြို့တော်ကို ရောက်ရှိပြီး ပထမ(၆)လ အတွင်းမှာ ဒေသဖွံ့ဖြိုးရေးနဲ့ မြို့တော်တည်ဆောက်ရေးကို အားစိုက် ဆောင်ရွက်တော်မူခဲ့ပါတယ်။

(၆)လတာအပြီး ဟစ်ဂျ်ရီ (၁)ခု၊ ရမ်ဇာန်လကနေ ဟစ်ဂျ်ရီ(၆)ခု၊ ဇုလ်ကအ်ဒဟ်လအထိ ((၅နှစ်၁လ)အချိန်အတွင်းမှာ အုပ်ချုပ်ရေး၊ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေး၊ ကာကွယ်ရေးနဲ့ ပြည်ပဆက်သွယ်ရေးကဏ္ဍတွေကို စနစ်တကျ တည်ဆောက်တော်မူခဲ့ပါတယ်။

ဟစ်ဂျ်ရီ(၆)ခု၊ မုဟာရ်ရမ်လမှ ဟစ်ဂျ်ရီ(၈)ခု ရမ်ဇာန်လအထိ (၁နှစ်၈)လအတွင်းဟာတော့ ပြည်ပထွက်ပြီး အရှင်မြတ်ဘက် ဖိတ်ခေါ်

ခြင်းအစီအစဉ်တိုးမြှင့်ခြင်းနဲ့ မုနာဖိက်(သာသနာ့အယောင်ဆောင်များ)၊ ယဟူဒီများနဲ့ ရင်ဆိုင်ခဲ့ရတဲ့ ကာလဖြစ်ခဲ့ပါတယ်။

ဟစ်ဂျ်ရီ (၈)ခု၊ ရမ်ဇာန်လမှ ဟစ်ဂျ်ရီ(၁၀)ခု၊ ဇီလ်ဟဂျ်လ(၉) ရက်ထိ (၂နှစ်၃လ)အတွင်းမှာတော့ အောင်နိုင်မှုတွေ၊ အစ္စလာမ့်စနစ်နဲ့ အုပ်ချုပ်ရေးအသီးအပွင့်တွေ၊ အရှင့်ရရှိအသ် ပြီးပြည့်စုံသွားကြောင်း ထုတ်ပြန်ကြေညာမှုတွေပြုခဲ့ပါတယ်။

## ၂၄။ ကရုဏာရှင်ရဲ့ ကရုဏာသဝဏ်လွှာကျမ်း

ကရုဏာရှင်ဟာ ကရုဏာအတိပြီးနေတဲ့ ကျမ်းမြတ်ကို ကျွန်ုပ်တို့ထံ ယူဆောင်လာခဲ့ပါတယ်။ တစ်ခွင်ကမ္ဘာကရုဏာပွားတော်မူတဲ့ ကိုယ်တော်မြတ် ﷺက သနားကရုဏာထားသူများထက် အဆမတန် သနားကြင်နာမူတဲ့ အရှင်မြတ်ရှိကြောင်း သတင်းကောင်းပါးပေးပါတယ်။

وَرَحۡمَتِي وَسِعَتۡ كُلَّ شَيۡءٖ

"ငါအရှင်မြတ်ရဲ့ ကရုဏာဟာ လောကခပ်သိမ်းအပေါ် လွှမ်းခြုံလျက်ရှိနေပါတယ်"ဆိုတဲ့ အရှင်မြတ်ရဲ့ သဝဏ်လွှာကို ကျွန်ုပ်တို့ဆီ ပို့ချ ပေးသနားတော်မူပါတယ်။ (စူရဟ်အအ်ရာဖ်- အာယဟ်နံပါတ် ၁၅၆)

سَلَٰمٌ عَلَيۡكُمۡۖ كَتَبَ رَبُّكُمۡ عَلَىٰ نَفۡسِهِ ٱلرَّحۡمَةَۖ أَنَّهُۥ مَنۡ عَمِلَ مِنكُمۡ سُوٓءَۢا بِجَهَٰلَةٖ ثُمَّ تَابَ مِنۢ بَعۡدِهِۦ وَأَصۡلَحَ فَأَنَّهُۥ غَفُورٞ رَّحِيمٞ

"အသင်တို့အပေါ် ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေသား၊ အသင်တို့အား ဖန်ဆင်းမွေးမြူစောင့်ရှောက်တော်မူသော အရှင်မြတ်က လောကခပ်သိမ်းအား သနားကရုဏာသက်ရန် သတ်မှတ်ထားချေပြီ။ မုချ အသင်တို့အနက် မသိနားမလည်ဘဲ အမှားကျူးလွန်မိသူတို့သည် အမှားကျူးလွန်ပြီးနောက် သောင်ဝ်ဗဟ်အမှားဝန်ချတောင်းပန်မည်၊ မိမိကိုယ်ကိုပြုပြင်ပြောင်းလဲပြီး နေထိုင်သွားမည်ဆိုပါက ထိုအရှင် မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးသနားတော်

မူပြီး၊ အလွန် တရာ သနားကြင်နာတော်မူသော အရှင်မြတ် ဖြစ်ပေသည်လို့လည်း သတင်းကောင်းပါးထားပါသေးတယ်။

(စူရဟ်အန် အားမ်၊ အာယသ်(၅၄)

ကိုယ်တော်မြတ်ﷺဟာ အတိုင်းအဆမဲ့ သနားကြင်နာတော်မူသော အရှင်မြတ်၏ မဟာကရုဏာတော်နဲ့ပတ်သက်ပြီး အွမ္မသ်ကို အခုလို သတင်းကောင်းပေးခဲ့ပါတယ်။

"အရှင်မြတ်က အဖန်ဆင်းခံများရဲ့ ကိစ္စအဝဝပြီးဆုံးသွားချိန် အရ်ရှ်ပလ္လင်ထက် "ငါအရှင်မြတ်ရဲ့ ကရုဏာဟာ ဒေါသပေါ် လွှမ်းသွားခဲ့ပါပြီ။" လို့မိန့်ကြားခဲ့ပါတယ်။

ကိုယ်တော်မြတ် ﷺက " အို...ကြင်နာသူအပေါင်းတို့၊ သူတို့ကို အရှင်မြတ် သနားကြင်နာတော်မူပါစေ။ မြေပေါ်ရှိ အဖန်ဆင်းခံများအားလုံးကို သနားကြင်နာကြပါ။ မိုးပေါ်က အရှင်မြတ်ကလည်း အသင်တို့ကို သနားကြင်နာတော်မူပါလိမ့်မယ်"လို့ မိန့်ကြားခဲ့ပါတယ်။ (သိရ်မေ့ဇီကျမ်း)

ရဟ်မသ် ကရုဏာ၊အကြင်နာဆိုတာ မြတ်နဗီﷺအွမ္မသ်ကို သတင်းကောင်းပေးခဲ့တဲ့ အရှင်မြတ်ရဲ့ အကြီးမားဆုံး လက်ဆောင် ဖြစ်ပါတယ်။

ထိုအရှင်မြတ်ရဲ့ မှန်ကန်စစ်မှန်တဲ့ ကျမ်းမြတ်ကုရ်အာန်ဟာလည်း-



"မပြတ်မစဲ သနားကြင်နာတော်မူသော၊ အတိုင်းမဲ့ ကြင်နာတော်မူသော အရှင်မြတ်ရဲ့ နာမတော်နဲ့အစပြုပါ၏။" ဆိုတဲ့ အကြင်နာများ ကွန့်မြူးနေတဲ့ ဝါကျလေးနဲ့ စတင်ထားတာပါ။

အသင့်အနေနဲ့ သနားကြင်နာခြင်း၊ ကရုဏာထားခြင်းဆိုတဲ့ စကားလုံးကို ကျမ်းမြတ်ကုရ်အာန်ထဲမှာလည်း ကြိမ်ဖန်များစွာ တွေ့ရှိရမှာပါ။

**الرحمن**၊ သနားကြင်နာတော်မူသော အရှင်ဆိုတဲ့ စာလုံးကို အစွဲပြုပြီးမှည့်ထားတဲ့ سورة الرحمن ဆိုတာတောင် ရှိနေသေးတာပဲ။

ကျမ်းမြတ်ကုရ်အာန်ထဲမှာ သနားကရုဏာထားခြင်းဆိုတဲ့ စာလုံးဟာ တစ်ခါတလေ နာမ်ပုံစံနဲ့၊ တချို့အခြေအနေတွေမှာ ကြိယာပုံစံနဲ့၊ တချို့အခြေအနေမှာဆိုရင် နာမဝိသေသနအဖြစ်နဲ့ အာယသ်တော်တွေအတွင်းမှာ လာရှိပါတယ်။

ဒီလိုရှင်းလင်းပြတ်သားတဲ့ အထောက်အထားတွေနဲ့ အစပြုထားတဲ့ ကျမ်းမြတ်လာ ကရုဏာတော်တွေဟာ အသင့်အပေါ် ခြုံလွှမ်းအုပ်မိုးလျက်ရှိနေမှာပါ။

ဒီအကြင်နာ ကရုဏာတွေဟာ အသင့်နှလုံးသားကို ယုံကြည်ချက်တွေ၊ ကျေနပ်နှစ်သက်ခြင်းတွေ၊ သတင်းကောင်းတွေ၊ နဖူးစာကောင်းခြင်းတွေ၊ နှလုံးစိတ်ဝမ်း အေးချမ်းခြင်းတွေနဲ့ စည်ကား ခမ်းနားစေမှာပါ။

ကိုယ်တော်မြတ်ﷺရဲ့ ဘဝမှာ သနားကရုဏာဆိုတဲ့ အရည်အချင်း ဝိသေသဟာ ပေါ်လွင်ထင်ရှားစွာ ရှိနေပါတယ်။ ကိုယ်တော် ယူဆောင်လာတာလည်း ကရုဏာ သဝဏ်လွှာကျမ်း၊ ကိုယ်တော် ယူဆောင်လာတဲ့ သာသနာတော်ဟာလည်း ကမ္ဘာတည်သရွေ့ ဝေနေယျအပေါင်းနဲ့ လောကခပ်သိမ်းကို ကရုဏာဖြန့်ချိပေးနေမှာပါ။

ကိုယ်တော်မြတ်ﷺနဲ့ ပတ်သက်ဆက်နွှယ်နေတဲ့ အကြင်နာကရုဏာစမ်းချောင်းနဲ့ မေတ္တာကမ္ဘာတို့ဟာ အင်မတန် လှပခမ်းနားပါလား...။

အသင် **ကလေးကမ္ဘာ**ထဲကို ရောက်ရှိသွားရင် သူတို့ဆီမှာ အကြင်နာထားပြီး မေတ္တာပွားပေးတဲ့ ဖခင်တစ်ပါးကဲ့သို့ချစ်နဗီကို တွေ့ရပါလိမ့်မယ်။

**အမျိုးသမီးကမ္ဘာ**ထဲကို အသင်ရောက်ရှိသွားရင်လည်း ကြင်နာတတ်တဲ့ ခင်ပွန်းကောင်းတစ်ယောက်အတွက် စံပြအဖြစ် ကိုယ်တော်မြတ် ﷺကို အသင်တွေ့ရပါလိမ့်မယ်။

**လူသားကမ္ဘာ**ကြီးထဲကို အသင်ရောက်ရှိသွားရင်လည်း သူတို့တွေ နှစ်ဘဝ နဖူးစာ ကောင်းသူများဖြစ်ရေးအတွက် ဆန္ဒအာသီသ

ပြင်းပြနေသူ၊ ၎င်းတို့လွတ်မြောက်ရေးအတွက် ကြိုးပမ်းနေသူ၊ သူတို့အကျိုး ကို ရှေ့ရှုမျှော်ကိုးသူအဖြစ် ကိုယ်တော်မြတ် ﷺကို အသင်တွေ့ရပါလိမ့် မယ်။

ကိုယ်တော့်ရဲ့ သာသနာတော်ဟာ မှန်ကန်သောစကားအတွက် သက်သေ၊ အမှန်တရားဘက်ကို ဖိတ်ခေါ်ခြင်း၊ အဖန်ဆင်းခံအားလုံး အပေါ် အကြင်နာ ကွန်ယက် ဖြန့်ကျက်ပေးနေပါတယ်။

ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ملهم العالم ကျမ်းတွင်
ရေးသားချက်ကို ဆီလျော်စွာ ပြန်ဆိုသည်။

## ၂၅။ အောင်မြင်မှုအပေါင်း သရဖူဆောင်းခဲ့သော မြတ်ကိုယ်တော် ﷺ

ကိုယ်တော်မြတ်ﷺဖွားမြင်ချိန်ကတည်းက ဇွဲသတ္တိအပေါင်း၊ အောင်မြင်မှုအပေါင်းဟာ ကိုယ်တော် နဲ့အတူ မွေးဖွားလာခဲ့ပါတယ်။

ငယ်စဉ်တောင်ကျေး ကလေးဘဝကတည်းက ကိုယ်တော်ﷺရဲ့ စိတ်နှလုံးဟာ အောင်မြင်မှုဆီ၊ မွန်မြတ်သော ကိုယ်ကျင့်တရားဆီ ခရီးနှင်လျက်ရှိနေခဲ့ပါတယ်။ နောက်ကျခြင်း၊ အောက်ကျခြင်းတို့ကို မနှစ်သက်ပါဘူး။

ကိုယ်တော်ဟာ ပြိုင်စံရှား ထူးချွန်ထက်မြက် အောင်မြင်သူတစ်ဦးဖြစ်ပါတယ်။ နဗီမဖြစ်မီကာလမှာလည်း ကိုယ်တော်ဟာ အောင်မြင်ကျော်ကြားမှု၊ ထူးချွန်ထက်မြက်မှု၊ ခေါင်းဆောင်မှုစွမ်းရည်တို့နဲ့ ထူးခြားလျက်ရှိနေခဲ့ပါတယ်။ ကိုရိုက်ရှ်မျိုးနွယ်ဝင်အားလုံးက ကိုယ်တော့်ကို “ သစ္စာသမာဓိရှင်၊ လူမှန်”လို့ ကင်ပွန်းတပ် ခဲ့ကြတာပါ။ ကိုယ်တော့်ရဲ့ ဆုံးဖြတ်ချက်တွေကို ကျေနပ်လက်ခံကြပြီး၊ မိမိတို့ကိစ္စအဝဝမှာ ကိုယ်တော်မြတ်ကိုပဲ ဦးဆောင်စေခဲ့ပါတယ်။

နဗီဘွဲ့ထူးချီးမြှင့်ခံရပြီးချိန်မှာ ကိုယ်တော်မြတ်ﷺဟာ အရှင်မြတ်က ကိုယ်တော့်ကို အထူးချီးမြှင့်မယ့် ဝစီလဟ် ဂျန္နသ်ရဲ့ အမြင့်ဆုံးအဆင့်အတန်းကို ဆန္ဒပြုခဲ့ပါတယ်။ ကိုယ်တော်ကိုယ်တိုင်ကလည်း အရှင်မြတ်ထံ တောင်းခံခဲ့သလို ကျွန်ုပ်တို့ကိုလည်း အရှင်မြတ်ထံကနေ ကိုယ်တော့်အတွက် ဝစီလဟ် တောင်းခံနည်းကို သင်ပြခဲ့ပေးခဲ့ပါတယ်။

ကိုယ်တော်မြတ်ﷺဟာ ဘယ်အဖန်ဆင်းခံမှခြေမချဖူး၊ မရောက်ဖူးတဲ့ စိဒ်ရသုလ်မုန်သဟာကိုလည်း ရောက်ဖူးခဲ့ပါတယ်။ လူသားတစ်ယောက်အတွက် အထွဋ်မြတ်ဆုံး၊ အပြည့်စုံဆုံးလို့ဆိုနိုင်တဲ့ အဆင့်တိုင်းကို ဖြတ်ကျော်နိုင်ခဲ့ပါတယ်။

အစ္စလာမ့်ရှုထောင့်ကနေ အောင်မြင်မှုကို သုံးသပ်ကြည့်တဲ့အခါ အောင်မြင်မှုရဲ့ မဏ္ဍိုင်ဟာ **(၄)ခု**ရှိပါတယ်။

၁။ အရှင်မြတ်က အသင့်ကို ကျေနပ်နှစ်သက်နေခြင်း

၂။ ကိုယ့်လုပ်ရပ်ကို ကိုယ်တိုင်စိတ်ချယုံကြည်ခြင်း

၃။ လူသားထုကိုအကျိုးပြုနိုင်ပြီး နောင်လာနောက်သားများအတွက် ရလဒ်ကောင်းများ ချန်ရစ်ထားနိုင်ခြင်း

၄။ အသင့်အနီးအပါးရှိသူများကလည်း အသင့်ကို ကျေနပ်နှစ်သက်ကြပြီး အသင်နဲ့ဆက်ဆံရသူတိုင်းဟာ အသင်နဲ့ပတ်သက်ခွင့်ရခြင်းအပေါ် ပီတိဖြစ်နေခြင်း၊ အသင်နဲ့သူတို့ကြား ဆက်ဆံရေးများ ကောင်းမွန်နေခြင်း။

ဒီလိုအောင်မြင်မှုရဲ့ စံနှုန်းတွေ၊ မှတ်ကျောက်တွေအားလုံးဟာ ကိုယ်တော်မြတ်ﷺရဲ့ ဘဝမှာ အပြည့်စုံဆုံး၊ လှပထည်ဝါဆုံး ပုံစံနဲ့ စုစည်းလျက်ရှိနေပါတယ်။ ကိုယ်တော်ဟာ အရှင်မြတ်ထံတော်ပါးမှာ အဆင့်တန်းအမြင့်ဆုံး ပုဂ္ဂိုလ်ဖြစ်ပါတယ်။ အဖန်ဆင်းခံတို့အနက် အရှင် မြတ်အနှစ်သက်ဆုံးပုဂ္ဂိုလ်ဖြစ်ပါတယ်။

ကိုယ်တော်ဟာ မိမိယူဆောင်လာတဲ့ သဝဏ်လွှာနဲ့ ပတ်သက်ပြီး စိတ်ချရသူဖြစ်ပါတယ်။ အစကတည်းက မိမိကိုယ်ကို ယုံကြည်မှု အပြည့်ရှိသူလည်း ဖြစ်ပါတယ်။ ကိုယ်တော်ဟာ လူသားထုတစ်ရပ်လုံး အတွက် အကြီးမားဆုံး အကျိုးတရားကို တင်ပြရာမှာ အောင်မြင်သူပါ။ သမိုင်းတလျှောက် ကိုယ်တော်မြတ်ﷺကို မြင်ခွင့်ရခဲ့ပြီး ကိုယ်တော့် အပါး ခစားခွင့်ရသူဖြစ်စေ၊ ကိုယ်တော်ဝဖားသ်ဖြစ်ပြီးမှ မွေးဖွားလာသူ ဖြစ်စေ တစ်ယောက်တိုင်း တစ်ယောက်တိုင်းဟာ ကိုယ်တော်မြတ်ﷺရဲ့ ပြီးပြည့်စုံလှတဲ့ အောင်မြင်မှု၊ ထူးချွန်မှုထက်မြက်မှု၊ ထူးခြားပြောင် မြောက်မှုတွေကို သက်သေထူလျက်ရှိနေပါတယ်။

အမှန်တော့ ကိုယ်တော့်ရဲ့ အောင်မြင်မှုဆိုတာဟာလည်း မျှော် လင့်စောင့်ဆိုင်းခဲ့သလိုပါပဲ။ အလ်ဟမ်ဒုလိလ္လာဟ်- မျှော်လင့်ထားတာ ထက်ကို ပိုတယ်လို့ မှတ်ချက်ပြုရမှာပါ။

ကိုယ်တော့်ကို နဗီရစူလ်အဖြစ်စေလွှတ်တော်မူခဲ့တာ စကြဝဠာအပေါင်းကို ဖန်ဆင်းမွေးမြူတော်မူတဲ့ အရှင်မြတ်ပါ၊ ထိုအရှင်မြတ် က ကိုယ်တော့်ကို ဝဟီဗျာဒိတ်တော်တွေနဲ့ ကောင်းကင်ကနေ တိုက်ရိုက် လမ်းညွှန်တော်မူခဲ့တာပါ။ နဗီဘွဲ့ထူးရရှိပြီး နောက်ပိုင်းမှာ လည်း ကဏ္ဍတိုင်းမှာ ကိုယ်တော့်ကို အရှင်မြတ်ကိုယ်တော်တိုင်က ထိန်းသိမ်းစောင့်ရှောက်နေခဲ့တဲ့အတွက် ထာဝရ အောင်မြင်လျက် ရှိနေပါတယ်။ ကိုယ်တော်ဟာ အောင်မြင်ခြင်းထက်ကို အောင်မြင်တယ် လို့ ရဲရဲကြီး ပြောလိုပါတယ်။

## ၂၆။ မြတ်ကိုယ်တော်အပေါ် ပို့သတဲ့ ဒရူးဒ်မေတ္တာ အစွမ်း

လမြတ်ရဗီအွလ်အောက်ဝလ်မှာ မြတ်ကိုယ်တော်အပေါ် ကျွန်တော်တို့တတွေ ဒရူးဒ်မေတ္တာတွေ များစွာ ပို့သကြပါတယ်။

ဒရူးဒ်တွေများများပို့သရင် ကျွန်တော်တို့အတွက် ဘာအကျိုးတွေ ရရှိမလဲဆိုတာကို စာဆိုတော်ကြီး အလီ ဂျောင်ဟာ်ရဲ့ နှလုံးသားနဲ့ တွေးပြီး နှလုံးသွေးနဲ့ရေးထားတဲ့ ကဗျာတွေကို ကိုးကားပြီး ဒီနေ့ တင်ပြ ပါရစေ။

شاعر: محمد علی جوہر

نعت رسول اللہ صل اعلی علیہ و سلم

تنہائی کے سب دن ہیں، تنہائی کی سب راتیں

اب ہونے لگیں ان سے ، خلوت میں ملاقاتیں

ہر لحظہ تشفی ہے، ہر آن تسلی ہے

ہر وقت ہے جوئی ، ہر دم ہیں مدا راتیں

کوثر کے تقاضے ہیں، تسنیم کے وعدے ہیں

ہر روز یہی چرچے ، ہر روز یہی باتیں

معراج کی سی حاصل ، سجدوں میں ہے کیفی

اک فاسق و فاجر ہیں، اور ایسی کراماتیں؟

بے مایہ سہی لیکن، شاید وہ بلا بھیجیں

بھیجی ہیں درودوں کی کچھ ہم نے بھی سوغاتیں

နေ့ညတစ်ကိုယ်ခန်းမှာ

အလွမ်းငယ်ဗျာပွေ။

ဆွေးအင်မှာလေ

နဗီဆွေ ဆုံမယ့်အခန်းကို

မှန်းဆလို့လွမ်း။

ချောင်းငယ်ဖော် သတ်စ်နင်းရယ်နဲ့

ကောင်ဆရ်တော် အပ်နှင်းခွင့်ကို

ရှယ်လွင့်လို့တမ်း။

အဆွေးတဖော်

အတွေးပင်လယ်ဝှမ်းမှာ

တမ်းတသံလွှမ်း။

ညနေ့စဉ် ဤအဖြစ်ရယ်ကြောင့်
ဆွေးနစ်လို့ ဗျာဆူ
စိတ်ဝမ်းရယ် ကလူ။

ဒီလူရင်မှာ အဖြာဖြာချို့လို့
ဒရှုးဒ်မင်္ဂလာ အခါခါပို့ကာဖြင့်
ခို့ရှို့ကာ ရည်မျှော်။

ချစ်ကိုယ်တော် ခေါ်မယ့်လမ်းကို
မျှော်မှန်းလို့လေး။

မုဟမ္မဒ် အိုကာရှား အလ်ကောင်ဆရီ (အဖျောက်)
မေတ္တာဖြင့် ဖွဲ့သီ ဖလှယ်သည်။

## ၂၇။ ကိုယ်တော်မြတ်ﷺနှင့် Medicine ဆေးပညာ (၁)

မြင့်မြတ်တော်မူသော အရှင်မြတ်က ကျွန်ုပ်တို့ ကိုယ်တော်မြတ်ﷺကို တစ်လောကလုံးအတွက် စံပြအဖြစ်စေလွှတ်ခဲ့တာပါ။

တစ်လောကလုံးရဲ့ ရင်ခွင်မှာ တောက်လောင်နေတဲ့ သောကမီးတွေ၊ ရင်တွင်းမှာ ခ နေတဲ့ အပူတွေအတွက် အမြိုက်ဆေးတွေ တိုက်ကျွေးပေးဖို့ စေလွှတ်ခဲ့ပါတယ်။ လူသားထုတစ်ရပ်လုံးခံစားနေရတဲ့ ဘေးဘယာအပေါင်းကို ကုသပေးသူအဖြစ်နဲ့ စေလွှတ်ခဲ့တာပါ။

သူတို့ခန္ဓာရဲ့ ဝေဒနာတွေကို ကုသပေးခဲ့တာဟာ နဗီတမန်တော်မြတ် ﷺရဲ့ နဗီဖြစ်ခြင်းအတွက် အကောင်းဆုံးသက်သေပါ။

မည်သည့်နည်းပညာမှ မထွန်းကားသေးတဲ့ ခေတ်၊ ယူနန်ဆေးပညာရပ်ထွန်းကားခဲ့တဲ့ ခေတ်နဲ့ နှစ်ပေါင်း (၅၀၀)ကျော်လောက် ကင်းကွာခဲ့တဲ့ခေတ်မှာ ကိုယ်တော်မြတ်ﷺဟာ ပွင့်ပေါ်ခဲ့ပါတယ်။

သို့ပေမယ့်လည်း ဆေးပညာရပ်၊ ဆေးဝါးကုသခြင်းနဲ့ ပတ်သက်ပြီး ကိုယ်တော်မြတ်ﷺမိန့်ကြားခဲ့တဲ့ မိန့်ကြားချက်တွေဟာ အံ့သြဖွယ်ကောင်းလှပါတယ်။

ဒီမိန့်ကြားချက်တွေကို ဟဒီးဆ်ပညာရှင်ကြီးတွေက မိမိတို့ရဲ့ ကျမ်းတိုင်းမှာ الطب النبوي , كتاب الطب (ဆေးပညာအခန်း၊ မြတ်နဗီﷺရဲ့ ဆေးဝါးကုသခြင်းအခန်း) စတဲ့ ခေါင်းစဉ်တွေနဲ့ အကျယ်တဝင့် ဖော်ပြကြပါတယ်။

ဦးစွာပထမ Embryo (သန္ဓေသားဖြစ်စဉ်)နဲ့ပတ်သက်ပြီး ကိုယ်တော်ရဲ့ မိန့်ကြားချက်တွေ၊ ရက်(၄၀)တိုင်းမှာ ဖြစ်စဉ်တစ်ခုစီ ပြောင်းလဲ ပုံတွေကို အသေးစိတ်တင်ပြချက်တွေဟာ နည်းပညာမထွန်းကားသေး တဲ့ အချိန်ကာလမှာ မိန့်ကြားခဲ့တာပါ။

ကိုယ်တော် ﷺက ဒါတွေကို ဂဃနဏဘယ်လိုများ သိရှိနေတာလဲ။ အဖြေက ရှင်းပါတယ်.....။

လူသားကို ကာလာလရည်ကြည်ကနေ စတင်ပြီး အဆင့်ဆင့် ပြုစုပျိုးထောင်၊ ကျွေးမွေးစောင့်ရှောက်မှုတဲ့ အရှင်မြတ်က ကောင်းကင်ကနေ ဝဟီနဲ့ တိုက်ရိုက် အသိပေးနေလို့ပါ။ ပြီးတဲ့အခါကိုယ်တော်မြတ် ﷺက **Anatomy** (ခန္ဓာဗေဒ၊ ကိုယ်ခန္ဓာ တည်ဆောက်ပုံ)တွေကို စနစ်တကျ ပြောပြခဲ့ပါတယ်။ **Physiology** (ဇီဝကမ္မဗေဒ၊ သက်ရှိတွေရဲ့ ကိစ္စ)တွေကို တင်ပြခဲ့တာတွေ၊ **Animals** (သတ္တဝါတွေ) **Plants** (သစ်ပင်ဝါးပင်တွေ)ရဲ့ မျိုးပွား စနစ်တွေ၊ အစာစနစ်၊ အစာချက်စနစ်တွေကိုလည်း တင်ပြခဲ့ပါတယ်။

ဒီစနစ်တွေကို တင်ပြခြင်းနဲ့အတူ ခန္ဓာကိုယ်အတွင်းမှာရှိနေတဲ့ ဓါတ်ကြီး လေးပါးဖြစ်တဲ့ (အာဘော=ရေ၊ ဝါယော = လေ၊ တေဇော = မီး၊ ပထဝီ=မြေကြီး)တို့ ဖောက်ပြန်မှုကြောင့်ဖြစ်ပေါ်လာတဲ့ ရောဂါတွေ၊ ဓါတ်ကြီးလေးပါးကို သဟဇာတဖြစ်စေမယ့် အစားအစာရွေးချယ်မှုတွေ၊ ဆောင်ရန်ရှောင်ရန်တွေကိုလည်း မိန့်ကြားခဲ့ပါသေးတယ်။

မြတ်နဗီ ﷺရဲ့ ဆေးဝါးကုသခြင်းဆိုင်ရာ အခြေခံမူကတော့ الوقاية خير من العلاج (ရှောင်ကြဉ်ခြင်းဟာ ကုသခြင်းထက် သာပို ကောင်းမွန်ပါတယ်)ဆိုတဲ့ Concept သဘောထားဖြစ်ပါတယ်။

## ၂၈။ ကိုယ်တော်မြတ်ﷺနှင့် Medicine ဆေးပညာ (၂)

ကိုယ်တော်မြတ်ﷺက ကျန်းမာရေးကို အရှင်မြတ်ချီးမြှင့်ထားတဲ့ နိအ်မသ်(စည်းစိမ်)တစ်ခုလို့ သဘောထားစေခဲ့ပါတယ်။ ဒီနိအ်မသ်ကို ဂရုမစိုက်ခြင်း၊ တန်ဖိုးမထားခြင်းကြောင့် လူတွေဟာဆုံးရှုံးနေရကြောင်းလည်း မိန့်ဆိုထားပါတယ်။ ဒီလိုကျန်းမာရေး ဖောက် ပြန်လာတဲ့အခါ မည်သို့မည်ပုံကုသရမည်ကိုလည်း စနစ်တကျ လမ်းညွှန်တော်မူပါတယ်။

ကိုယ်တော်မြတ်ﷺရဲ့ ကုသနည်းစနစ်တွေ၊ ကုသခြင်းဆိုင်ရာ လမ်းညွှန်ချက် တွေမှာ အခြေခံ ပုံစံနှစ်မျိုးကို တွေ့ရှိရပါတယ်။

### (၁) ရှောင်ကြဉ်နည်းဖြင့် ကုသခြင်း -

ရှောင်ကြဉ်ခြင်းသည် ကုသခြင်းထက် ပိုမိုကောင်းမွန်သည်။

“ ဒေသတစ်ခုတွင် ပလိပ်ရောဂါပြန့်နှံ့ကြောင်းသိရှိရပါက ထိုဒေသထဲက မည်သူမှ အပြင်မထွက်လေနဲ့။ အပြင်ကလူ မည်သူ တစ်ဦးတစ်ယောက်မှလည်း အထဲမဝင်လေနဲ့။”ဟုမိန့်ကြားကာ **Social distancing** စနစ်၊ **Quarantine** စနစ်ကို ပြဋ္ဌာန်းပေးခဲ့ပါတယ်။

စွံပလွံသီးကို သခွားသီး၊ ဖရဲသီးတို့ဖြင့် တွဲဖက်စားသုံးရန် မိန့်ကြားခဲ့ပါတယ်။ “စွံပလွံသီးရဲ့ အပူဓါတ်ကို သခွားသီး၊ ဖရဲသီးတို့ရဲ့ အအေးက ချေဖျက်လိုက်ပြီး သဟဇာတဖြစ်သွားပါစေလိမ့်မယ်လို့ မိန့်ကြားတော်မူခဲ့ပါတယ်။

**(၂) ကုသခြင်း စနစ်-**

မလွဲမရှောင်သာ ရောဂါဖြစ်လာပါက ကုသနည်းများကို မိန့်ကြားခဲ့ပါတယ်။ မကုသမီ الشافي ပျောက်ကင်းစေတဲ့ အရှင်မြတ်ဟာ အလ္လာဟ်အရှင်မြတ်သာလျှင်ဖြစ်ကြောင်း၊ ကုသခြင်းသည် အကြောင်းခံ အရှင်မြတ်ကသာလျှင် ပျောက်ကင်းစေကြောင်း ယုံကြည်ချက်ကို ထား စေပါတယ်။

ရောဂါဘေးဘယာ ခံစားရခြင်းဟာ အကုသိုလ်များ ပလပ်စေရန်၊ အဆင့်အတန်းမြင့်မားရန် အကြောင်းခံဖြစ်ကြောင်း မိန့်ကြားတော်မူပါတယ်။ ကိုယ်တော်မြတ်ﷺဟာ လူမမာထံ ကြွမြန်းလာလေ့ရှိပြီး အကျိုးအကြောင်းမေးမြန်းလေ့ရှိတော်မူပါတယ်။ မိမိရဲ့ လက်တော်ကို လူမမာရဲ့ နဖူးပေါ်၊ အချို့သော လူမမာအမျိုးသားတို့ရဲ့ ရင်ဘတ်ပေါ် တင်ပြီး ဖြေသိမ့်လေ့ရှိပါတယ်။ ပြီးတဲ့အခါ

لابأس طهور إن شاء الله

"ဘာမှသောကမဖြစ်ပါနဲ့၊ အရှင်မြတ်အလိုတော်နဲ့ ပျောက်ကင်းသွားမှာပါ"လို လည်း ဆုဒိုအာ တောင်းပေးလေ့ရှိပါတယ်။

ရောဂါမကုသမီ လူနာကို အရှင်မြတ်နဲ့ ချိတ်ဆက်ပေးခြင်း၊ လူနာရဲ့ ဝေဒနာအတွက် ကောင်းသော စကားများနဲ့ ဖြေသိမ့်ပေးခြင်းကို ဦးစွာ ဆောင်ရွက်တော်မူပါတယ်။ ဒါတွေပြီးမှ လူနာရဲ့ ရောဂါအလိုက် လိုအပ်သည်များကို ဝဟီကနေ တဆင့် လမ်းညွှန်တော်မူပါတယ်။

**ပျားရည်နဲ့ကုသခြင်း-**

မွတ်စ်လင်မ်ကျမ်းလာ အဗူစအီးဒ် ခွဒ်ရီရဲ့ ဆင့်ပြန်ချက်တစ်ရပ်မှာ ဆွဟာဗီတစ်ပါးက ကိုယ်တော်မြတ်ﷺထံမှာ အခစားဝင်ပြီး “ကျွန်တော့်နောင်တော်ဟာ ဝမ်းလျှောနေပါတယ်”လို့ လျှောက်ထားခဲ့ပါတယ်။ ကိုယ်တော်မြတ်ﷺက **“ပျားရည်တိုက်လိုက်ပါ”**လို့ မိန့်ကြားလိုက်ပါတယ်။ **သုံးကြိမ်သုံးခါ** လာရောက်လျှောက်ထားခဲ့ရာ ကိုယ်တော်မြတ်ﷺကလည်း ပျားရည်ကိုသာ တိုက်ကျွေးပေးရန် မိန့်ကြားခဲ့ပါတယ်။ **စတုတ္ထအကြိမ်**လာရောက်လျှောက်ထားချိန်မှာတော့ ကိုယ်တော်မြတ် ﷺ က **“ ပျားရည်ထဲမှာ ရောဂါအပေါင်းကို ပျောက်ကင်းစေနိုင်တဲ့ အာနိ သင်ရှိသည်”**ဟူသော အရှင့်အမိန့်တော်ကတော့ မှားယွင်းဖို့မရှိဘူး၊ အသင့်နောင်တော်ရဲ့ ဗိုက်မှာ တစ်ခုခုတော့ ဖြစ်နေပြီ ”လို့ မိန့်ကြားခဲ့ ပါတယ်။

**ဇမ်ဇမ်ရေဖြင့် ကုသခြင်း-**

အိဗ်နေ့ မာဂျာဟ်ကျမ်းလာ ဂျာဗိရ်ﷺရဲ့ ဆင့်ပြန်ချက်၊ မွတ်စ်လင်မ်ကျမ်းလာ အဗူဇရ် ﷺသခင်ရဲ့ ဆင့်ပြန်ချက်တစ်ခုအရ “ ဇမ်ဇမ်ရေဟာ ရောဂါအပေါင်းအတွက် ဆေးဝါးဖြစ်ကြောင်း “ ကိုယ်တော်မြတ်ﷺက မိန့်တော်မူထားပါတယ်။

**ဟေဂျာမသ် (သွေးဖောက်ကုသခြင်း)-**

ဟေဂျာမသ်(သွေးပုပ်များကိုဖောက်ထုတ်သည့်နည်းဖြင့်) ကုသခြင်းကိုလည်း ညွှန်ပြတော်မူပါတယ်။ မွတ်စ်လင်မ်ကျမ်းလာ အနတ်စ်

ﷺ သခင်ရဲ့ ဆင့်ပြန်ချက် တစ်ခုအရ “ ဟောဂျာမသ်ဟာ အသင်တို့ရဲ့ ကုသနည်းများအနက် အကောင်းဆုံး ကုသနည်းတစ်ခုဖြစ်ပါတယ်”လို့ မိန့် ကြားခဲ့ပါတယ်။

**စမုံနက်ဖြင့် ကုသခြင်း-**

ဗိုခါရီကျမ်းလာ မိခင်မွန် အာအေရှာ ﷺသခင်မကြီးရဲ့ ဆင့်ပြန်ချက် တစ်ခုမှာ ကိုယ်တော်မြတ်ﷺက **“စမုံနက်ဟာ သေခြင်းတရားမှ အပ ရောဂါအပေါင်းအတွက် ဆေးဖြစ်ကြောင်း”** မိန့်ကြားခဲ့ပါတယ်။

ဒီလိုကုသနည်းတွေအပြင် ဆွဒကဟ်ပေးကမ်းရန်၊ တတ်ကျွမ်း နားလည်သော ဆရာဝန်များကို မိမိတို့ရောဂါ ကုသပေးဖို့ ရွေးချယ်ရန် အွမ္မသ်ကို လမ်းညွှန်တော်မူခဲ့ပါသေးတယ်။

အခြားတစ်ဖက်မှာ ဆေးပညာရပ်ကို စနစ်တကျ မသင်ယူဘဲ ဆေးကုသတဲ့ ဒေါက်တာရမ်းကုများကိုလည်း ရမ်းကုပြီး နောက်ဆက် တွဲ ဖြစ်ပျက်လာမယ့် ဆိုးကျိုးမှန်သမျှကို သူသာလျှင် တာဝန်ယူဖြေရှင်း ပေး ရမည်ဖြစ်ကြောင်း သတိပေးမိန့်ကြားတော်မူပါတယ်။

လူမမာမေးခြင်းကိုလည်း မွတ်စ်လင်မ်အချင်းချင်း ကျေပွန်ရ မယ့် တာဝန်တစ်ခုဖြစ်ကြောင်း၊ လူနာကို လူမမာမေးသွားရောက် မေးမြန်းသူ သည် အရှင်မြတ်ရဲ့ကရုဏာထဲမှာ ရောက်ရှိသွားကြောင်း၊ လူမမာထံ ထိုင် လိုက်ပါက အရှင့်ကရုဏာပင်လယ်ထဲမှာ ခြေဆုံးခေါင်း ဆုံး ရောက် ရှိသွားကြောင်း မိန့်ကြားတော်မူခဲ့ပါတယ်။

ယခုတင်ပြခဲ့သမျှဟာ ကိုယ်တော်မြတ်ﷺရဲ့ ဆေးပညာရပ်ဆိုင်ရာ ဆောင်ရွက်ချက်များထဲက အချို့ကိုဆွဲထုတ်တင်ပြခြင်းသာ ဖြစ်ပါတယ်။ အကျယ်တဝင့်ကို အေမာမ် အိဗ်နေ့ကိုင်ယစ်မ် ၊ အေမာမ် ဇဟဗီစတဲ့ ပညာရှင်များရေးသားပြုစုတဲ့ الطب النبوي ကျမ်းတွေမှာ တဝ ကြီး လေ့လာနိုင်ပါတယ်။

ဒီလိုဘက်စုံပြည့်စုံ ထူးချွန်ထက်မြက်လှတဲ့ ၊ ကောင်းကင်ကျ ဝဟီကနေ တိုက်ရိုက်လမ်းညွှန်ချက်များရရှိတော်မူတဲ့ နဗီ့ရဲ့ အွမ္မသီ ဖြစ် ခြင်းအပေါ် ဂုဏ်ယူမဆုံး ဖြစ်ရပါတယ်။

**يارب صل وسلم دائما أبدا**

**على حبيك خير الخلق كلهم**

## ၂၉။ ကိုယ်တော်မြတ် ﷺ၏ Management စီမံခန့်ခွဲခြင်းအနုပညာ (၁)

ယနေ့ခေတ်ရဲ့ ရေပန်းအစားဆုံး စကားလုံးတွေထဲက တစ်ခုက တော့ Management စီမံခန့်ခွဲခြင်း အနုပညာ ဖြစ်ပါတယ်။ TQM (Total Quality Management) နဲ့ပတ်သက်တဲ့ သင်တန်းတွေ၊ စာအုပ် စာတမ်းတွေအမြောက်အမြားကိုလည်း တွေ့ရှိနေရပါတယ်။

အမှန်တကယ်တော့ စီမံခန့်ခွဲခြင်းဆိုတာဟာ ဘဝရဲ့ အရေးပါ လှတဲ့ ကဏ္ဍတစ်ခုပါ။ ဒါကြောင့်လည်း "Failing to plan is planning to fail" (စီမံမှုညံ့ရင် စံမီမှုတွေ ဖြစ်မလာဘူး)လို့ စာဆိုရှိနေ တာပါ။

မြင့်မြတ်တော်မူသော အရှင်မြတ်က ဒီလောကမှာ ရှိရှိသမျှ ပုပုရွရွ အားလုံးကို အတိုင်းအဆနဲ့အညီ ဖန်ဆင်းကြောင်း အမိန့်ရှိတော် မူပါတယ်။

إنا كل شيئ خلقناه بقدر

ပြီးတဲ့အခါ ကိစ္စအဝဝကို စနစ်တကျ စီမံခန့်ခွဲတော်မူကြောင်း يدبر الأمر ဆိုပြီး နေရာများစွာမှာ အမိန့်ရှိထားပါတယ်။

မြင့်မြတ်တော်မူသော အရှင်မြတ်က ကိုယ်တော်မြတ်ﷺ ကို လည်း အရာရာမှာ အဆင့်အမြင့်ဆုံး၊ အကောင်းဆုံး စီမံခန့်ခွဲနည်းများ ကို ဝဟီကနေ တဆင့်လမ်းညွှန်တော်မူပါတယ်။ ဒီညွှန်ချက်တွေ အတိုင်း မြတ်နဗီ ﷺကလိုက်နာခဲ့ပြီး အကောင်းဆုံး လူနေမှုစနစ်ကို (၂၃)နှစ် တာ အတွင်း ပြသခဲ့ပါတယ်။

ကမ္ဘာတည်သရွေ့ ပေါက်ဖွားလာမယ့် လူ့အသိုင်းအဝိုင်းအတွက် စီမံခန့်ခွဲခြင်းဆိုင်ရာ အခြေခံမူများ၊ ရွှေရောင်လမ်းညွှန်ချက်များကို ပြသတော်မူခဲ့ပါတယ်။

ဒီနေ့ ကျွန်တော်တို့ management (စီမံခန့်ခွဲခြင်း) ရှုထောင့်ကနေ ကိုယ်တော့်ရဲ့ စီရင်ကိုလေ့လာကြည့်ကြပါစို့....။

ဒီလိုလေ့လာတဲ့နေရာမှာ အရင်ဆုံး-

- ✓ ကိုယ်တော့်ရဲ့ management (စီမံခန့်ခွဲခြင်း)နယ်ပယ်၊
- ✓ management (စီမံခန့်ခွဲ)ရာမှာ ကိုယ်တော် သတ်မှတ်ထားတဲ့ အခြေခံမူတွေ၊
- ✓ လက်အောက်ငယ်သားများအပေါ် သက်ရောက်ခဲ့ပုံ ၊
- ✓ အောင်မြင်မှုအတိုင်းအတာ စတဲ့ ကဏ္ဍတွေရဲ့ ရှုထောင့်ကနေ ဆွေးနွေးတင်ပြလိုက်ပါမယ်။

**(၁) ကိုယ်တော်မြတ် ﷺရဲ့ management (စီမံခန့်ခွဲခြင်း)နယ်ပယ်**

ကိုယ်တော်မြတ်ﷺရဲ့ စီမံခန့်ခွဲမှုနယ်ပယ်ဟာ ကျယ်ပြန့်ပါတယ်။ ဒီလောကတစ်ခုတည်းအတွက်ပဲမဟုတ်ဘဲ ကျွန်ုပ်တို့ဘဝတွေကို နောင်တမလွန်အတွက်ပါ စီမံခန့်ခွဲပေးခဲ့တာပါ။

ဒီလိုစီမံခန့်ခွဲရေးမှာ- သာသနာရေး၊ ပညာရေး ၊ စားဝတ်နေရေး၊ စီးပွားရေး၊ ကျန်းမာရေး၊ အိမ်ထောင်ရေး၊ အုပ်ချုပ်ရေး၊ သားသမီး ပြုစုပျိုးထောင်ရေးစတဲ့ အခြေခံနယ်ပယ်တွေနဲ့အတူ တမလွန်ကောင်းစားရေးတွေအတွက် စီမံမှုတွေကို တွေ့ရမှာပါ။

## (၂) အခြေခံမှု

စေတနာ(အကောင်းလိုလားပေးခြင်း)၊ ကရုဏာ၊ အနစ်နာ၊ လူသားရင်းမြစ်ကို တန်ဖိုးထားခြင်း၊ အကျိုးပြုခြင်း။

## (၃) လက်အောက်ငယ်သားများအပေါ် သက်ရောက်ခဲ့ပုံ

အားလုံးက ကိုယ်တော်မြတ်ﷺရဲ့ စီမံခန့်ခွဲမှုအပေါ် ကျေနပ် နှစ်သက်ခဲ့ကြခြင်း၊ ဒီစီမံမှုနဲ့ ပတ်သက်ပြီး စောဒက၊ ဝေဖန်မှု မရှိခဲ့ခြင်း။

## (၄) အောင်မြင်မှုအတိုင်းအတာ

ကိုယ်တော်မြတ်ﷺရဲ့ စီမံခန့်ခွဲမှုမှာ အောင်မြင်မှုအတိုင်းအတာကတော့ ဒီလောကတစ်ခုထဲတင်မကဘဲ နောင်တမလွန်ဘဝမှာပါ အောင်မြင်မှုပေးနိုင်ပါတယ်။ ကျွန်တော်တို့ ပြောနေကျစကားနဲ့ ပြန်ပြောရရင်တော့ ကျန်တဲ့လူသားတွေရဲ့ စီမံခန့်ခွဲမှုနယ်ပယ်၊ သူတို့စီမံမှုမှာ အောင်မြင်ခြင်းအတိုင်းအတာ ဘယ်နေရာမှာ ဆုံးခဲ့သလဲ။ အဲ့ဒီနေရာကနေ ကိုယ်တော်မြတ်ﷺရဲ့ စီမံမှုမှာ အောင်မြင်ခြင်း အတိုင်းအတာ စ တင်ပါတယ်။

## ၃၀။ ကိုယ်တော်မြတ် ﷺ၏ Management စီမံခန့်ခွဲခြင်းအနုပညာ (၂)

ကိုယ်တော်မြတ်ﷺဟာ ကျွန်ုပ်တို့ဘဝကိုရှုထောင့်ပေါင်းစုံကနေ အကောင်းဆုံး စီမံခန့်ခွဲပေးခဲ့ပါတယ်။

**သာသနာရေးဆိုင်ရာ စီမံခန့်ခွဲမှု-**

ကိုယ်တော်မြတ်ﷺဟာ ကျွန်တော်တို့ရဲ့ သာသနာ့ကိစ္စအဝဝကို စနစ်တကျ သွန်သင်လမ်းညွှန်ပေးခဲ့ပါတယ်။ အိမ်ဝင်အိမ်ထွက်၊ အိပ်ချိန် စားချိန်၊ အပေါ့အလေးသွားချိန် စတဲ့ လူ့သဘာဝလိုအပ်ချက်များကို သွန် သင်လမ်းညွှန်ခြင်းနဲ့အတူ ၊ ခဝပ်မှုပိုင်း၊ အပေးအယူပိုင်း၊ လူမှုဆက်ဆံ ရေးပိုင်း၊ စာရိတ္တပိုင်း အားလုံးကိုပါ စနစ်ချပြီး သွန်သင်ပေးခဲ့ပါတယ်။

ဒီအချက်တွေ အားလုံးကို စနစ်တကျ လိုက်နာ ဆောင်ရွက်နိုင်ဖို့ အစ္စလာမ်ဆိုတဲ့ သာသနာ၊ ရှရီအသ်ဆိုတဲ့ စနစ်တစ်ခုကို ပြဋ္ဌာန်းပေးတော်မူခဲ့ပါတယ်။ ဒီရှရီအသ်ရဲ့ ထူးခြားချက်ကတော့ လိုက်နာဖို့ လွယ်ကူခြင်း၊ အစွန်းမရောက်ခြင်းဆိုတဲ့အချက်တွေပါ။

**Time management (အချိန်စီမံခန့်ခွဲခြင်း)**

အချိန်နဲ့ပတ်သက်ပြီး ကိုယ်တော်မြတ်ﷺရဲ့ စီမံခန့်ခွဲခဲ့ပုံကိုလည်း လေ့လာကြည့်ပါဦး...။

ဦးစွာ ပထမ "စည်းစိမ်နှစ်ခုနဲ့ပတ်သက်ပြီး လူအများစု ဆုံးရှုံးနေ ရပါတယ်။ (၁) ကျန်းမာရေး (၂) အားလပ်ချိန်"၊ "မအိုမီ နုပျိုချိန်ကို တန်ဖိုးထားကြပါ" စသဖြင့် မိန့်ကြားခဲ့ပါတယ်။

ပြီးနောက် ကိုယ်တော်မြတ်ﷺဟာ ကျွန်တော်တို့ရဲ့ အချိန်တွေကို လူ့သဘာဝနဲ့ကိုက်ညီပြီး အစ္စလာမ့်နည်းကျ စီမံခန့်ခွဲပေးခဲ့ပါတယ်။ ဒီလို စီမံခန့်ခွဲရာမှာ ဖန်ဆင်းရှင်ရဲ့ ဝတ္တရားနဲ့၊ ဖန်ဆင်းခံရဲ့ ဝတ္တရားများကို ဟန်ချက်ညီစွာ ကျေပွန်ဖို့ အဓိကထား သင်ကြားပေးပါတယ်။

အဗ်ဒုလ္လာဟ်ဗင်န် အမရ်ﷺသခင်ကြီးဟာ တစ်ညလုံး အေဗာဒသ်ပြုပြီး တနေ့လုံး ရိုဇာထားကြောင်း၊ နေ့စဉ် ကျမ်းမြတ်ကုရ်အာန် တစ်ခုသိမ်ဖတ်ရွတ်ကြောင်း ကိုယ်တော်မြတ် ﷺထံ သတင်းရောက်လာပါတယ်။ ကိုယ်တော်မြတ်ﷺက တဖက်စောင်းနင်း သူ့ရဲ့ ဒီလိုဆောင်ရွက်ချက်တွေကို အားမပေးခဲ့ပါဘူး။ သို့သာမက ခေါ်ယူတော်မူပြီး “ အသင့်အပေါ်မှာ အသင့်ဖန်ဆင်းရှင်ရဲ့ တာဝန်ရှိပါတယ်။ ကိုယ့်အတွက်ကိုယ် ကျေပွန်ရမယ့် တာဝန်လည်းရှိပါတယ်။ အသင့်မျက်လုံးနဲ့ ပတ်သက်ပြီးလည်း အသင့်အပေါ် တာဝန်ရှိပါတယ်။ အသင့်ခန္ဓာနဲ့ ပတ်သက်ပြီး လည်း အသင့်အပေါ် တာဝန်ရှိပါတယ်။ အသင့်မိသားစုရဲ့ တာဝန်လည်းရှိပါသေးတယ်။ (အသင့်ဇနီးသည်နဲ့ သားသမီးတွေရဲ့ တာဝန်ဝတ္တရားတွေလည်း ရှိနေပါတယ်။)၊ ဒီတော့ ဝတ္တရားရှင်တိုင်းကို သူတို့ရဲ့ ရပိုင်ခွင့်တွေ ပေးဆပ်ပါ။”လို့ မိန့်ကြားခဲ့ပါတယ်။

**(ဒီလိုပေးဆပ်နိုင်ဖို့ အချိန်ကို စနစ်တကျ စီမံခန့်ခွဲဖို့ လိုအပ်တယ် မဟုတ်လား...။)**

**Educational Management (ပညာရေးဆိုင်ရာ စီမံခန့်ခွဲမှု)**

ရာစုနှစ်ပေါင်းများစွာ ပညာအလင်း ကင်းကွာနေတဲ့ ပတ်ဝန်း ကျင်ကို اقرأ **အသင်ဖတ်ပါ**ဆိုတဲ့ နှိုးဆော်သံနဲ့ လှုပ်နှိုးပေးခဲ့တာ ကျွန် တော် မြတ်ကိုယ်တော်ﷺပါ။

ဘာကိုပဲ ဖတ်ဖတ်၊ သင်ယူ သင်ယူ အရှင်မြတ်ကို မမေ့ဖို့၊ အရှင်မြတ်ကို ကိုယ်သိတဲ့ပညာနဲ့ ရှာဖွေတတ်ဖို့ စီမံတော်မူပါတယ်။

ဦးစွာ ပညာမဲ့ ကင်းစင်ရေး ဖုံတစ်ခုတည်ဆောက်ခဲ့ပါတယ်။ “မွတ်စ်လင်မ်တိုင်းအပေါ်မှာ သူ့ဘဝရပ်တည်ရေးမှာ လိုအပ်လာမယ့် အတိုင်းအတာခန့် သာသနာ့ပညာဆည်းပူးခြင်းဟာ မလုပ်မနေရ တာဝန်အဖြစ် ပြဋ္ဌာန်းလိုက်ပါတယ်။ “

ပညာလို အိုသည်မရှိ၊ ပုခက်တွင်းက သင်္ချိုင်းတွင်းအထိ ပညာ ဖွေရှာရမယ်ဆိုတဲ့ သဘောထားကို ချီးမြှင့်ခဲ့ပါတယ်။ လူသားထုတစ်ရပ် လုံးနဲ့ ဝေနေယျအပေါင်းကို အကျိုးပြုပေးမယ့် ပညာရပ်ကို အရှင်မြတ် ထံကနေ တောင်းခံကာ လိုက်တွေ့ လိုက်နာဖို့၊ လူသားထုကို အကျိုး မပြုနိုင်တဲ့ ပညာရပ်ကနေ ကင်းရှန်ဆုပန်ဖို့အတွက် ညွှန်ကြားတော် မူခဲ့ပါတယ်။ ပြီးတဲ့အခါ ကလေးငယ်တွေရဲ့ ပညာရေးစနစ်ကို ခိုင်မာစွာ တည်ဆောက်ခဲ့ပါတယ်။ သက်ကြီးတွေအတွက် ပညာရေးစနစ်၊ အမျိုး သမီးသီးသန့်ပညာရေးစနစ် စသဖြင့် စနစ်တွေ ချခဲ့ပါတယ်။ သာသနာ ဖြန့်ချိရာမှာ ခေတ်ပေါ်၊ ခေတ်မီ နည်းစနစ်များ၊ လိုအပ်လာရင် လိုအပ် တဲ့ ဘာသာစကားကိုလည်း အစွဲမထားဘဲ သင်ယူစေပါတယ်။

ကိုယ်တော့်ရဲ့ သင်ကြားနည်းစနစ်က စာတွေ့ထက် လက်တွေ့ကို ဦးစားပေးပါတယ်။ ပြဿနာအတွက် အဖြေရှာစနစ်ကို ကျင့်သုံးပါတယ်။ သင်ယူသူဗဟိုပြုစနစ်နဲ့ ဆရာဗဟိုပြုစနစ်နှစ်ခုလုံးကြားက အလယ်အလတ်စနစ်ကို ရွေးချယ်ပါတယ်။

ပညာရေးနဲ့ တစ်ဘဝစာအတွက်ပဲ မဟုတ်ဘဲ နှစ်ဘဝစာအတွက် အောင်မြင်မှုပန်းတိုင်ကို တက်လှမ်းနိုင်မယ့် စနစ်ကောင်းတွေကို ချမှတ်ပေးခဲ့ပါတယ်ဆိုတာ သိရှိလိုက်ရပါတယ်။

## ၃၁။ ကိုယ်တော်မြတ်ﷺနှင့် သားသမီး ပြုစုပျိုးထောင်ရေး (၁)

သားသမီးပြုစုပျိုးထောင်ရေးကဏ္ဍဟာ ပတ်ဝန်းကျင်မှာ အရေးပါဆုံး ကိစ္စတွေထဲက တစ်ခုဖြစ်ပါတယ်။ စနစ်တကျ ပြုစုပျိုးထောင်မှုအောက်မှာ ကြီးပြင်းလာတဲ့ ကလေးတွေဟာ ပြုစုပျိုးထောင်မှုမပါဘဲ ကြီးပြင်းလာတဲ့ ကလေးတွေနဲ့ အများကြီး ကွာဟသွားပါတယ်။

ကိုယ်တော်မြတ်ﷺက သားသမီးပြုစုပျိုးထောင်ရေးဟာ အိမ်ထောင်ဖက် ရွေးချယ်ချိန်မှာကတည်းက စတင်ကြောင်း မိန့်ကြားတော်မူပါတယ်။ သားသမီးထွန်းကားရာမှာ အခရာကျလှတဲ့ တစ်နေ့ မိဘဖြစ်လာမယ့် အမျိုးသားတွေနဲ့ အမျိုးသမီးတွေကို အိမ်ထောင်ဖက်ရွေးချယ်ကြတဲ့အခါ သာသနာကို ရှေ့တန်းတင်ရွေးချယ်ကြဖို့၊ ကိုယ်နဲ့အလွှာအရ၊ ရုပ်ရည်အရ၊ မျိုးရိုးအရ၊ ဥစ္စာအရ အရာရာမှာ ကိုက်ညီပြီး သဟဇာတကျတဲ့အိမ်ထောင်ဖက်ကို ရွေးချယ်ဖို့ မိန့်ကြပါတယ်။

ဒီလိုပေါင်းဖက်မိတဲ့ ဇနီးမောင်နှံနှစ်ဦးထံကနေ ရင်သွေးရတနာထွန်းကားခြင်းအစ သားနွေတည်ချိန်မှာကတည်းက နဖူးစာဆိုးတဲ့ ကလေးမဖြစ်စေဖို့ အမိန့်ရှိပါတယ်။ မွေးဖွားလာချိန်မှာ ဦးစွာပထမ ကလေးငယ်ရဲ့နားထဲမှာ အရှင်မြတ်ရဲ့ ကြီးကျယ်ကြောင်းကို အကောင်းဆုံး ဖော်ညွှန်းပြသပေးတဲ့ အဇာန်နဲ့ အေကာမသ်ကို ရွတ်ဆိုစေပါတယ်။ တတ်နိုင်တဲ့မိဘတွေက ကလေးငယ်အပေါ် ကျရောက်လာမယ့် ဘေးဘလာတွေ ဝေးကွာစေမယ့် အကီကဟ် ဆိတ်လှီးဖြတ်ပြီး အလှူဒါနပြုစေပါတယ်။ ဒီကလေးငယ်လေးရဲ့ ဦးခေါင်းဆံပင်တွေကို ရိတ်ပေးပြီး

ဒီဆံပင် အလေးချိန်နဲ့အညီ ငွေဘော်(သို့) ကာလတန်ဖိုးကို လှူဒါန်းစေပါတယ်။

ကောင်းတဲ့ အမည်နာမ၊ အဓိပ္ပါယ်ရှိတဲ့အမည်နာမပေးဖို့ မိန့်ကြားပါတယ်။ ဒီကလေးကို အရှင်မြတ်ရဲ့ ကြီးကျယ်ကြောင်း သင်ကြားပို့ချပေးတဲ့နေရာမှာ မိဘနှစ်ပါးထက် ဘယ်သူမှ မစောစေဖို့ အစီအစဉ်ချမှတ်တော်မူပါတယ်။

ကလေးငယ် (၇)နှစ်ရောက်တာနဲ့ အရှင်မြတ်ကို ခဝပ်ခြင်းနည်းလမ်းတွေ သင်ကြားစေပါတယ်။ လက်တွေ့ လိုက်နာစေဖို့ တိုက်တွန်းပါတယ်။ ကောင်းတဲ့ စာရိတ္တမွန်တွေ သင်ကြားပေးဖို့ မှာတမ်းပါတယ်။

ကိုယ်တော်မြတ်ﷺကိုယ်တော်တိုင်ကလည်း ကလေးအရွယ်ရှိတဲ့ အဗူစလမဟ် သခင်ရဲ့ သားလေးကို အစ္စလာမ့်နည်းကျ စားသောက်နည်း အနုပညာကို သင်ကြားပေးပါတယ်။ လူမမယ် အရွယ်ကလေးငယ် အနတ်စ်ﷺသခင်ကို နှစ်ဘဝရဲ့ အောင်မြင်မှုနည်းလမ်းတွေ သင်ကြားပေးပါတယ်။ ဒီလိုသင်ကြားပေးတဲ့ နေရာမှာ ကလေးငယ်မှားသွားရင်လည်း သိမ်မွေ့စွာနဲ့ ပြုပြင်ပေးကြောင်း အနတ်စ်သခင် ကိုယ်တိုင် သက်သေခံထားပါတယ်။ မြေးတော် ဟစံသခင်နဲ့ ဟိုစိုင်းန် ﷺ သခင်နှစ်ပါးကိုလည်း သူများပိုင် ပစ္စည်းတွေကို အသီးတစ်လုံးပင်ဖြစ်စေ မကိုင်ဖို့၊ မစားသောက်ဖို့ မိန့်တော်မူပါတယ်။ သူတို့လေးတွေကို ဗလီဝတ်ကျောင်းတော်ဆီ အတူတကွ ခေါ်ဆောင်လာတော်မူပါတယ်။

ကလေးတွေရဲ့ အားလပ်ချိန်လေးတွေမှာအီမာန်၊ အစ္စလာမ်၊ ကုရ်အာန် သင်ပေးဖို့ အတွက် အစီအစဉ်တွေ ပြုလုပ်စေတော်မူပါတယ်။

ကလေးငယ်တွေအတွက် ဆုဒိုအာတောင်းပေးခြင်းဟာ ကိုယ်တော်မြတ်ﷺရဲ့ စွန္နသ် တစ်ခုပါ။ သူတို့ကို ပြုစုပျိုးထောင်ရာမှာ အထိရောက်ဆုံး ဗျူဟာတစ်ခုလို့လည်း တင်စားပါရစေ။

အိဗ်နေ့ အဗ္ဗါးစ်သခင်ကို သဖ်စီရ် ပါရဂူကြီး၊ ဟဒီးဆ် ပါမောက္ခကြီးဖြစ်ဖို့ ကိုယ်တော်မြတ်ﷺက اللهم فقهه في الدين وعلمه التأويل လို့ ဒိုအာပေးခဲ့ပါတယ်။

အနတ်စ်သခင်အတွက် اللهم بارك له في عمره وولده وماله သူ့ရဲ့ သက်တမ်းမှာ၊ သားသမီးရေးမှာ ဥစ္စာပစ္စည်းမှာ မင်္ဂလာရှိဖို့ ဒိုအာပြုပေးပါတယ်။

ဒီနေ့ရဲ့ တင်ပြချက်ကို အနှစ်ချုပ် တင်ပြရရင် ကိုယ်တော်မြတ်ﷺဟာ သားသမီး ပြုစုပျိုးထောင်ရေးမှာ ဦးစွာ ပထမ အိမ်ထောင်ဖက်ရွေးချယ်ခြင်းကနေ စတင်ပါတယ်။ ကလေးမွေးဖွားလာတာနဲ့ သူ့ရဲ့ယုံကြည်ချက်ပိုင်း၊ ခဝပ်မှုပိုင်း၊ သင်ကြားမှုပိုင်း၊ ရိုသေသမှုပိုင်းတွေကို ဦးစားပေးပါတယ်။ သူတို့ဘဝလေးတွေ တောက်ပဖို့အတွက် ဒိုအာတွေကိုလည်း အမြဲ ချီးမြှင့်တော်မူခဲ့ပါတယ်။

## ၃၂။ ကိုယ်တော်မြတ်ﷺနှင့် သားသမီး ပြုစုပျိုးထောင်ရေး (၂)

### အကီဒဟ် ယုံကြည်မှုကို သင်ကြားပေးခြင်း-

သိရ်မေ့ဇီကျမ်း (၂၅၁၆)မှာ အိဗ်နေ့ အဗ္ဗါးစ်သခင်ရဲ့ ဆင့်ပြန်ချက် တစ်ရပ် လာရှိပါတယ်။ "တစ်ရက် ကျွန်တော်ဟာ ကိုယ်တော်မြတ်ﷺရဲ့ အစီးအနင်းနောက်မှာ လိုက်ပါ စီးနင်းလာခဲ့ပါတယ်။

ကိုယ်တော်မြတ်ﷺက "အို..သားလေး၊ တစ်ချို့သော သစ္စာတရားတွေ၊ သစ္စာစကားတွေ သားလေးကို သင်ပေးမယ်၊ သေချာလေး မှတ်သားထားကွယ်။ အရှင်မြတ်နဲ့ပတ်သက်သမျှ စည်းအားလုံး၊ ကတိအားလုံးကိုသား ထိန်းသိမ်းရင် အရှင်မြတ်ကလည်း သားကို ထိန်းသိမ်းပေးလိမ့်မယ်။ အရှင်မြတ်နဲ့ သက်ဆိုင်တဲ့ ကိစ္စအဝဝကို သားက သေချာလိုက်နာ ထိန်းသိမ်းရင် အချိန်တိုင်း အသင့်ရှေ့မှာ အရှင်မြတ်ကို တွေ့ရလိမ့်မယ်။ သားတောင်းခံဖို့ရှိရင်လည်း အရှင်မြတ်ထံကနေပဲ တောင်းခံပါ၊ အကူအညီ လိုအပ်လာရင်လည်း အရှင်မြတ်ဆီကနေပဲ အကူအညီ တောင်းခံပါ။

သားမှတ်ထားပါ....၊ တစ်လောကလုံးစုပေါင်းပြီး သားကို အကျိုးပြုလိုလျှင်လည်း အရှင်မြတ်သတ်မှတ်ထားသလောက်သာ အကျိုးပြုနိုင်ကြမှာပါ။ တစ်လောက်ကလုံးစုပေါင်းပြီး သားကို ဆိုးကျိုးပြုကြမယ်ဆိုရင်လည်း အရှင်မြတ်သတ်မှတ်ထားတဲ့ အတိုင်းအတာလောက်ပဲ ဆိုးကျိုးပြုနိုင်မှာပါ။

အရာအားလုံးဟာ အရှင်မြတ်ထံမှာ ရေးသားမှတ်တမ်းတင်ထားပြီး ဖြစ်ပါတယ်။ အပြီးသတ် သတ်မှတ်ထားပြီးဖြစ်ပါတယ်။

**စလာမ်သင်ကြားပေးခြင်း-**

ကိုယ်တော်မြတ်ﷺဟာ ကလေးငယ်တွေကို စလာမ်သင်ကြားပေးခဲ့ပါတယ်။ အနတ်စ် ﷺသခင်ပြောပြပါတယ်။ ကိုယ်တော်မြတ်ﷺက ကလေးသူငယ်တွေကိုလည်း ဦးစွာ စလာမ်မေတ္တာပို့သတော်မူပါတယ်။

**ကောင်းတဲ့ကိစ္စများမှာ ညာဖက်မှ အစပြုနည်းသင်ပေးခြင်း-**

ဗိုခါရီကျမ်းလာ ဆင့်ပြန်ချက်တစ်ခုမှာ "ကိုယ်တော်မြတ်ﷺ အပါးမှာ လူကြီးကလေးများစုံလင်စွာ အခစားဝင်နေခဲ့ပါတယ်။ ကိုယ်တော်ရဲ့ ညာဖက်မှာ ရှိနေသူက ကလေးငယ်လေးတစ်ဦးဖြစ်ပါတယ်။ ကိုယ်တော်က (နို့)သောက်ပြီး ကျန်တဲ့ပမာဏကို တိုက်ကျွေးဖို့ ကြည့်တဲ့အခါ ကလေးငယ်က ညာဖက်ထိပ်မှာရှိနေပါတယ်။ ကလေးငယ်လေးဆီကနေ လူကြီးတွေကို အရင်တိုက်ကျွေးခွင့်ပေးမလားလို့ ခွင့်ပန်လိုက်တယ်အခါ ကလေးငယ်က "ကိုယ်တော့်သောက်ကျွင်းကို ဘယ်သူ့ကိုမှ ကျွန်တော် ဦးစားမပေးပါရစေနဲ့"လို့ပြန်လည် လျှောက်ထားခဲ့ပါတယ်။ ဒီအကြောင်းလေးကနေ ကောင်းတဲ့ ကိစ္စတိုင်းမှာ ညာဖက်ကနေ အစပြုရတယ်ဆိုတဲ့ အချက်ကို သင်ကြားပေးလိုက်တာပါ။

## လျှို့ဝှက်ချက် ထိန်းသိမ်းနည်း-

မွတ်စ်လင်မ်ကျမ်းလာ ဆင့်ပြန်ချက်တစ်ရပ်မှာ "အနတ်စ် ﵁ သခင်က ပြောပြပါတယ်။ ကိုယ်တော်မြတ်ﷺက ကျွန်တော့်ကို စာတစ်စောင်ပေးပြီး စေလွှတ်ခဲ့ပါတယ်။ ကျွန်တော့်မိခင်က မေးမြန်းတဲ့အခါ "ဒါဟာ ကိုယ်တော်မြတ်ﷺရဲ့ လျှို့ဝှက်ချက်တစ်ခုဖြစ်ကြောင်း ကျွန်တော်က ဖြေကြားလိုက်တဲ့အခါ မိခင်ကြီးကလည်း လျှို့ဝှက်ချက်ကို ဒီလိုပဲ ထိန်းသိမ်းရမည်ဖြစ်ကြောင်း ထောက်ခံပေးခဲ့ပါတယ်။ "အဲ့ဒီအချိန် အနတ်စ်သခင်ဟာ ဆယ်ကျော်သက်အရွယ်ပဲ ရှိပါသေးတယ်။

## စားသောက်နည်း သင်ကြားပေးခြင်း-

ဗိုခါရီကျမ်း (၅၃၇၆)မှာ အမရ်ဗင်န် အဗီစလမဟ်﵁သခင်ရဲ့ ကိုယ်တွေ့ဖြစ်ရပ်လေး တစ်ခု ဖော်ပြထားပါတယ်။ ကျွန်တော့်ဖခင် ကွယ်လွန်သွားတဲ့အချိန် ကိုယ်တော်မြတ်ﷺက ကျွန်တော့်ကို ထိန်းသိမ်းပေးခဲ့ပါတယ်။ ကျွန်တော်ဟာ ကိုယ်တော်နဲ့အတူ နေထိုင် စားသောက်ခွင့်ရခဲ့ပါတယ်။ တစ်ရက်ကိုယ်တော်မြတ်ﷺနဲ့အတူ အစားစားနေရင်း ကလေးသဘာဝအလျောက် လက်က ပန်းကန်ထဲမှာ ဟိုဟိုဒီဒီ နှိုက်စားနေတာကို ကြည့်ပြီး မြတ်ကိုယ်တော်ﷺက "အို...သားလေး၊ ထမင်းမစားခင် အရှင်မြတ်နာမတော်ကို တသပါ(ဗိစ်မိလ္လာဟ်ဆိုပါ)၊ သားနဲ့အနီးဆုံး အစားအစာတွေကိုသာ စားပါ။ လက်ယာလက်နဲ့ စားသုံးပါ"လို့ သင်ကြားပေးခဲ့ပါတယ်။ အဲ့ဒီနေ့ကစပြီး ကျွန်တော်အသက်ရှိသရွေ့ ကိုယ်တော် သင်ပေးတဲ့စားသောက်နည်းဆိုင်ရာ ရိုသေသမှု

တွေနဲ့ပဲ စားသောက်ဖြစ်တော့တယ်”လို့ သခင်ကြီးက မိန့်ကြားခဲ့ပါတယ်။ ဒါဟာ ကိုယ်တော်မြတ် ﷺရဲ့ ရှိသေသမှု သင်ကြားပေးခြင်းဆိုင်ရာ ရလဒ်တစ်ခုပါပဲ။

**သူများပစ္စည်းသုံးစွဲခြင်းမှ တားမြစ်ခြင်း-**

ဗိုခါရီကျမ်း (၃၀၇၂)မှာ “ဟစံ ﷺသခင်(၂)နှစ် သားလောက်မှာ အများပိုင် ဆွဒကဟ် စွံပလွံသီး တစ်လုံးကို ကောက်ပြီး ပါးစပ်ထဲထည့်မိသွားပါတယ်။ ကိုယ်တော်မြတ်ﷺက ချက်ချင်းပဲ”ထွေးထုတ်စေပြီး ၊ သားလေးငါတို့ဟာ ဆွဒကဟ်ပစ္စည်းတွေ စားလို့မရဘူးလေဆိုပြီး သွန်သင်ဆုံးမခဲ့ပါတယ်။

**သူငယ်ချင်းကောင်း ရွေးချယ်ဖို့ သင်ကြားပေးခြင်း-**

ဗိုခါရီကျမ်း (၂၁၀၁) မှာ အဗူမူစာ အရှ်အရီသခင်ကြီးရဲ့ ဆင့်ပြန်ချက်ကို ဖော်ပြထားပါတယ်။ ကောင်းတဲ့ မိတ်ဆွေနဲ့ မကောင်းတဲ့ မိတ်ဆွေရဲ့ပမာဟာ ရေမွှေးရောင်းသူနဲ့ ပန်းဘဲဆရာတို့အတိုင်းပါပဲ။ “လူသားဟာ သူချစ်ရသူရဲ့ လမ်းစဉ်အပေါ်မှာ ရှိနေပါတယ်။ ဒါ့ကြောင့် ကိုယ်ပေါင်းဖက်နေတဲ့ မိတ်ဆွေကို စနစ်တကျ စိစစ်သင့်ပါတယ်။”လို့ မိန့်ကြားတော်မူပါတယ်။

စီရသ်ကျမ်းတွေ၊ ဟဒီးဆ်ကျမ်းကြီးတွေမှာ မျိုးဆက်သစ်ရင်သွေးငယ်တွေကို ကိုယ်တော်မြတ်ﷺ ပြုစုပျိုးထောင်းခဲ့တဲ့ နောက်ထပ် နမူနာကောင်းတွေ အများကြီး ကျန်ရှိနေပါသေးတယ်။ ဒီလိုပြုစုပျိုးထောင်မှုတွေကြောင့်ပဲ အနောက်တိုင်းက မွတ်စ်လင်မ်မဟုတ်တဲ့

စာရေးဆရာတွေက မှုမှုတတနဲ့ “ မုဟမ္မဒ်ﷺထံမှာ တခြားမုအ်ဂျေ့ဇာ (သဘာဝလွန်အစွမ်းတွေ) ပြစရာမရှိခဲ့ရင်တောင် သူပြုစုပျိုးထောင်းခဲ့တဲ့ တပည့်သားတွေ၊ ဆွဟာဗာတွေဟာ မုအ်ဂျေ့ဇာအတွက် လုံလောက်ပါတယ်”လို့ ရေးသားကြတာပါ။

## ၃၃။ ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင် ﷺ (၁)

ကျမ်းတော်မြတ် ကုရ်အာန်မှာ မြင့်မြတ်တော်မူသော အရှင်မြတ်က

لَّقَدْ كَانَ لَكُمْ فِي رَسُولِ اللَّهِ أُسْوَةٌ حَسَنَةٌ لِّمَن كَانَ يَرْجُو اللَّهَ وَالْيَوْمَ الْآخِرَ وَذَكَرَ اللَّهَ كَثِيرًا

အရှင်မြတ် ရစူလ်တမန်တော်ရဲ့(ဘဝ)မှာ အရှင်မြတ်ကို၊ တမလွန်ကို ယုံကြည်မက်ထားသူတွေအတွက်၊ အရှင်မြတ်ကိုများစွာ သတိရတာသသူများအတွက် အကောင်းဆုံးစံနမူတွေ ရှိနေပါတယ်"လို့ စူရဟ်အဟ်ဇာဗ်၊ အာယသ် (၂၁)မှာ ဒီလိုမိန့်ကြားထားတာပါ။

ဒီအာယသ်တော်အရ ကျွန်တော်တို့အတွက် အကောင်းဆုံး စံနမူနာတွေဟာ မြတ်ကိုယ်တော်ﷺရဲ့ ဘဝမှာ ရှိနေပြီးသားပါ။ ဒါတွေကို ရယူဖို့အတွက်စည်းကမ်းချက်ကတော့ အရှင်မြတ်ကို၊ တမလွန်ဘဝကို မက်ထားယုံကြည်ရမယ်၊ အရှင်မြတ်ကို များစွာ သတိရတာသနေရမှာဖြစ်ပါတယ်။

ဒီနေ့ မေးခွန်းလေးတွေ မေးရင်း ဖြေကြည့်ရအောင်ပါ။

အလ္လာမတူ ဒေသမတူ၊ သဘာဝမတူ၊ ခေတ်အခါသမယ မတူတဲ့ ကမ္ဘာ့လူသားတစ်ဦးတစ်ယောက်တိုင်းအတွက် ကိုယ်တော်မြတ်ﷺ ဟာ ဘယ်လို စံနမူဖြစ်နိုင်တာလဲ....။ ဟုတ်ပါတယ်...။ ဒါက မြင့်မြတ်တော်မူသော အရှင်မြတ်ကိုယ်တော်တိုင်က ကိုယ်တော်မြတ်ﷺရဲ့ ဘဝကို ရှုထောင့်ပေါင်းစုံကနေ ပြည့်စုံကုံလုံစွာနဲ့ စီမံထားတဲ့အတွက် မဖြစ်နိုင်စရာ အကြောင်းလုံးဝမရှိပါဘူး။ ဖြစ်ကိုဖြစ်နိုင်ပါတယ်။

ကိုယ်တော်မြတ်ﷺရဲ့ တည်ရှိမှု၊ ကိုယ်တော့်ရဲ့ ဘဝဖြစ်စဉ် တစ်ခုလုံးကလည်း ဖြစ်နိုင်ကြောင်း သက်သေပြနိုင်ခဲ့ပါတယ်။

ဒါဆိုကျွန်တော်တို့ ဒီဖြစ်နိုင်တဲ့ အကြောင်းတရားလေးတွေကို ရှုထောင့်ပေါင်းစုံကနေ လေ့လာကြည့်ရအောင်။ ဒီလိုလေ့လာတဲ့ နေရာမှာ ကျေးဇူးရှင်ဆရာသခင်ကြီး အလ္လာမဟ် စိုင်ယစ်ဒ် ဆိုလိုင်မာန် (နဒ်ဝီ)ﷺသခင်ကြီး မဒ်ရားစ်ပြည်နယ်ကျင်းပပြုလုပ်တဲ့ (၇)ရက်တာ စီရသ်ဟောပြောပွဲမှာ ဟောကြားခဲ့တဲ့ အချက်အလက်တွေကို မှီငြမ်း ကာ တင်ပြပါရစေ။

"ကိုယ်တော်မြတ်ﷺရဲ့ ဘဝဟာ မွေးဖွားလာချိန်ကတည်းက ကွယ်လွန်တဲ့အချိန်ထိ ကြုံဆုံခွင့်ရတဲ့သူတိုင်းအဖို့ သိရှိပြီးဖြစ်ပါတယ်။ ကိုယ်တော်နဲ့ ကြုံဆုံခွင့်မရတဲ့ နောင်လာနောက်သားတွေအတွက်ကို လည်း သမိုင်းက သစ္စာရှိရှိနဲ့ လက်ဆင့်ကမ်းပေးခဲ့ပါတယ်။

ကိုယ်တော့်ရဲ့ ကိစ္စအဝဝ၊ ဘဝအခြေအနေအစုံအလင်တို့ဟာ ဖုံးကွယ်မနေပါဘူး။ ကိုယ်တော့်ကို ဖွားတော်မူခန်း၊ နို့တိုက်ကျွေးခန်း၊ ငယ်စဉ်တောင်ကျေးကလေးဘဝမှသည် လူပျိုဘော်ဝင်စထိ ဖြစ်ပျက်ခဲ့ သမျှ၊ ကြုံဆုံခဲ့သမျှဟာ အကျယ်တဝင့်၊ အသေးစိတ် မှတ်တမ်းတင် ထားပြီးဖြစ်ပါတယ်။

လူ့သမိုင်းက ဒီနဗီကြီးရဲ့ စီးပွားရေးပြုလုပ်ခန်း၊ ထိမ်းမြားခန်း တို့ကိုလည်း ဂဃနဏ သိရှိထားပြီးဖြစ်ပါတယ်။ နဗီဘွဲ့ထူးချီးမြှင့်ခံရပြီး နောက်ပိုင်း မက္ကဟ်ရွှေမြို့တော်မှာ နေထိုင်ခဲ့တဲ့ (၁၃)နှစ်၊ မဒီနာရွှေမြို့

တော်မှာ နေထိုင်ခဲ့တဲ့(၁၀)နှစ်မှာ ဖြစ်ပျက်ခဲ့သမျှ ကို ဆွဟာဗာကြီးတွေက ကလောင်သစ္စာနဲ့ မှတ်တမ်းတင်ထားပါတယ်။

ကျမ်းမြတ်ကုရ်အာန်ကလည်း ကျွန်တော်တို့ကို ကိုယ်တော့်ရဲ့ စီရည်ထဲက ရှုထောင့်အစုံကို တင်ပြပေးပါတယ်။ နဗီမဖြစ်မီ အကြောင်းများ၊ နဗီဖြစ်ပြီးနောက်ပိုင်း ဖြစ်ပျက်ခဲ့သမျှ အကြောင်းတရားများ စသဖြင့်.... ကိုယ်တော့်ရဲ့ ဖတဆိုးဘဝအကြောင်း၊ ကိုယ်တော့်ရဲ့ ဆင်းရဲခဲ့ရကြောင်း၊ ကိုယ်တော့်ရဲ့ ဟေရာလှိုင်ဂူအတွင်းက တရားအားထုတ်ခန်း၊ နဗီဘွဲ့ထူးချီးမြှင့်ပြီးနောက်ပိုင်း ကိုယ်တော့်အပေါ် ဝဟီကျရောက်ပုံ၊ ကိုယ်တော့်ရဲ့ ပြန်လည် လက်ဆင့်ကမ်းပုံ၊ ကိုယ်တော် မိုးကောင်းကင်ပေါ် ကြွမြန်းခန်း၊ ရန်သူများနဲ့ ရင်ဆိုင်ခဲ့ပုံ၊ အမိမြေကို စွန့်ခွာပြီး မဒီနာမြို့တော်သို့ ဟစ်ဂျ်ရည်ပြုပုံ၊ ကိုယ်တော်ဆင်နွှဲခဲ့တဲ့ စစ်ပွဲများအကြောင်း စသဖြင့် ကုရ်အာန်ကျမ်းမြတ်က ကိုယ်တော့်ရဲ့ ကိုယ်ကျင့်တရားတွေကိုလည်း ဖော်ပြထားပါသေးတယ်.....။

နောက်တစ်ဖက်မှာ ဟဒီးဆ်ကျမ်းဂန်ကြီးတွေကလည်း ကိုယ်တော့်ရဲ့ မိန့်ကြားချက်တွေ၊ လုပ်ဆောင်ချက်တွေ၊ အခြေအနေအလုံးစုံကို ဟဒီးဆ်တော်ပေါင်း (၁၀၀၀၀၀=တစ်သိန်းခန့်)နဲ့ တင်ပြထားပါတယ်။

ရှမာအိလ်အမည်ရှိတဲ့ ဟဒီးဆ်ကျမ်းကြီးတွေဆိုရင် ကိုယ်တော်မြတ် ﷺနဲ့ ပတ်သက်တဲ့ ကိစ္စအဝဝကို အသေးစိတ် ဖော်ပြထားပါတယ်။ ကိုယ်တော့်ရဲ့ တနေ့တာဆောင်ရွက်ချက်တွေ၊ ကိုယ်တော့်ရဲ့ ကိုယ်ကျင့်

သီလတွေ စသဖြင့်... ထပ်တိုးပြီး ကိုယ်တော်မြတ်ﷺက ကမ္ဘာ့နိုင်ငံ အသီးသီး၊ အင်ပါယာအသီးသီးရဲ့ ဘုရင်တွေဆီ ပို့ပေးခဲ့တဲ့ စာချွန်လွှာတွေ၊ ကိုယ်တော့်ရဲ့ မုတ်ဆိတ်တော်အကြောင်း၊ ဦးခေါင်းဆံကေသာများ၊ ဒီဆံကေသာများကို ဖြီးပုံ၊ ဒီဆံကေသာတွေမှာ ဆံဖြူမည်မျှပါဝင်တယ်၊ ဦးခေါင်းနဲ့ မုတ်ဆိတ်တော်ကို ဒန်းဆိုးခြင်း၊ စွရ်မဟ်သားခြင်း၊ ကိုယ်တော့်ဝတ်ပုံစားပုံ၊ ကိုယ်တော့်ရဲ့ ဘဝလူနေမှုစနစ်၊ ကိုယ်တော့်ရဲ့ ခြေစွပ်အကြောင်း၊ ဖိနပ်အကြောင်း၊လက်စွပ်အကြောင်း၊ဓါးအကြောင်း ၊ သံချပ်ကာအင်္ကျီ၊ သံခမောက်၊ ပေါင်းထုပ်၊ လုံခြည်အကြောင်း၊ စားပုံသောက်ပုံ၊ လျှောက်လှမ်းပုံ၊ ထိုင်ပုံ၊ အခင်းအကျင်း၊ ခေါင်းအုံး၊ အိပ်ယာ၊ မုန့်၊ ဟင်းရည်အကြောင်း၊ ဝိုဇူရေ သန့်စင်ပုံ၊ အစားမစာမီနဲ့ စားပြီးဖတ်ရွတ်ခဲ့တဲ့ ဆုဒိုအာများ၊ အမွှေးအကြိုင်သုံးစွဲပုံ၊ သစ်သီးဝလံစားသုံးပုံ၊ ပြောပုံဆိုပုံ၊ အိပ်ပုံ၊ တနေ့တာခဝပ်ပုံ၊ ပြုံးပုံ၊ ရယ်ပုံ၊ ကျီစယ်ပုံ၊ ဥပုသ်စောင့်ထိန်းပုံ၊ ကျမ်းမြတ်ကုရ်အာန် ဖတ်ရွတ် သရဇ္ဈာယ်ပုံ၊ ခယရှိ့ကျိုးပုံ၊ကွယ်လွန်တော်မူခန်း၊ကိုယ်တော့်ကိုဒဖန်လုပ်၊မြေမြှုပ်ပုံစတဲ့အကြောင်းအရာတွေကို အသေးစိတ် မှတ်တမ်းတင်ထားပါတယ်။

## ၃၄။ ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင် ﷺ (၂)

အသင်ဟာ ကြွယ်ဝချမ်းသာတဲ့ သူဌေးကြီးဆိုရင် ပဟေဂျားဇ်နဲ့ ဆီးရီးယားနှစ်နိုင်ငံကြား ကုန်ပစ္စည်းများနဲ့ ကူးသန်းရောင်းဝယ်နေတဲ့၊ ဘာရိန်းရဲ့ ဘုရင့်ဘဏ္ဍာတိုက်ကြီး တစ်ခုလုံးကို ပိုင်ဆိုင်တဲ့ ရစူလ်တမန် တော်မြတ်ﷺကို မိမိရဲ့ စံနမူအဖြစ် ပြုလုပ်လိုက်ပါ။

အသင်ဟာ ဆင်းရဲနွမ်းပါးနေသူဆိုရင် အဗူသွာလိဗ်လျှိုမြောင် ကြားမှာ ပိတ်ဆို့ခံနေရတဲ့၊ မဒီနာရွှေမြို့တော်ကို ပိုင်ဆိုင်မှုနတ္တိ၊ ဥစ္စာ လက်ဗလာနဲ့ ကြွမြန်းရောက်ရှိလာတဲ့ မြတ်ကိုယ်တော်ကို ဘဝစံနမူ အဖြစ် မှတ်ယူလိုက်ပါ။

အသင်ဟာ ဘုရင်ဖြစ်နေမယ်ဆိုရင် အရဗ်တစ်ခွင်လုံးရဲ့ ရေမြေ သနင်းပြည့်ရှင်မင်းကြီးဖြစ်တဲ့ ၊ အရဗ်တစ်ခွင်လုံးရှိ ခေါင်းဆောင်တွေ၊ အသိဉာဏ်ရှင်တွေပင် သူ့ရဲ့ အမိန့်တော်သံ နာခံနေတဲ့ မုဟမ္မဒ်ﷺ ရဲ့ ဆောင်ရွက်ချက်များကို စံနမူပြုလိုက်ပါ။

အသင်က အားနွဲ့တဲ့ တိုင်းသူပြည်သား တစ်ဦးဖြစ်နေရင် မက္ကာဟ်မြို့ရှိ မုရှ်ရိက်တွေရဲ့ အုပ်ချုပ်မှုအောက်မှာနေခဲ့ရတဲ့ ရစူလ် တမန်တော်မြတ်ရဲ့ ဘဝမှာ မိမိအတွက် စံနမူနာ ရှာလိုက်ပါ။

အသင်ဟာ အောင်နိုင်သူဖြစ်ခဲ့ရင် ဗဒရ်၊ (ခန်ဒတ်က်၊ ခိုင်ဗရ်)၊ ဟိုနိုင်းန်နဲ့ မက္ကာဟ်ရွှေမြို့တော်တို့ အောင်နိုင်ခြင်းအပေါင်း သရဖူ ဆောင်းခဲ့တဲ့ မြတ်ကိုယ်တော်ရဲ့ဘဝမှာ ကိုယ့်အတွက် စံနမူရှာလိုက် ပါ။

**အသင်ဟာ ရှုံးနိမ့်သူဖြစ်ခဲ့ရင်-**

အရှင်မြတ် ဒီအဖြစ်ဆိုးမျိုးနဲ့ အသင့်ကို မကြုံစေပါနဲ့ အိုဟိုဒ် စစ်ပွဲနေ့မှာ ရှဟီဒီ အာဇာနည်များနဲ့ ဒဏ်ရာရရှိနေတဲ့ တပည့်သားများ ကြားမှာ ကြေကွဲပက်လက်ဖြစ်နေတဲ့ ကိုယ်တော်မြတ်ﷺဆီကနေ သံဝေဂတရား ရယူလိုက်ပါ။

အသင်ဟာ ဆရာဖြစ်ခဲ့မယ်ဆိုရင် ဆွဖ္ဖဟ်ကျောင်းတော်မှာ တပည့်တပန်းများကို သင်ကြားပို့ချပေးနေတဲ့ ဆရာအပေါင်းရဲ့ ဆရာ မြတ်ကိုယ်တော်ကို လှမ်းမျှော်ကြည့်လိုက်ပါ။

အသင်ဟာ တပည့်ဖြစ်နေမယ်ဆိုရင် ဂျိဗ်ရအီးလ်ကောင်းကင် တမန်ရှေ့မှာ (သူယူဆောင်လာတဲ့ အရှင့်ဗျာဒိတ်တော်များ) လမ်းညွှန် ချက်များကို ခယရိုကျိုးပြီး၊ တလေးတစားနာယူနေတဲ့ ကိုယ်တော် ﷺ ကို မြင်ယောင်လိုက်ပါ။

အသင်ဟာ လူတွေကို အကောင်းလိုလားစွာ၊ သစ္စာရှိစွာနဲ့ တရားဟောကြား၊ လမ်းညွှန်များ ပြသပေးနေသူဆိုရင်တော့ မတ်စ်ဂျေ့ ဒ်နဗဝီရဲ့ မင်နိဗရ်ထက်ကနေ ကမ္ဘာခပ်သိမ်းကို တိုက်ကျွေးနေတဲ့ မြတ်နဗီﷺရဲ့တရားရေအေး အမြိုက်ဆေးတွေကို နားသောတပန်ဆင် လိုက်ပါ။

## ၃၅။ ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင် ﷺ (၃)

အသင်ဟာ အမှန်တရားကိုဖော်ထုတ်ချင်သူ၊ ကောင်းမှု ကောင်းရာများကို ကြေညာမောင်းခတ်ကာ ဖြန့်ချီချင်နေတယ်၊ သို့ပေမယ့် အသင့်ဘက်က ရပ်တည်ပေးမယ့်သူ၊ ကူညီဖေးမယ့်သူ မရှိဘူးဆိုရင်တော့ မက္ကာဟ်ရွှေမြို့တော်မှာ အမှန်တရားဆီဖိတ်ခေါ်နေတဲ့၊ ဒီအမှန်တရားကို လူဘုံအလယ်မှာ ကြေညာနေသော်လည်း ကူညီသူမရှိ၊ ဖေးမသူမရှိတဲ့ ဘဝနဲ့ရပ်တည်နေတဲ့ ကိုယ်တော်မြတ် ﷺ ကိုကြည့်ပါ။

အသင်ဟာ ရန်သူကိုအောင်နိုင်သွားမယ်၊ သူ့ရဲ့ အစွယ်ကို ချိုးပစ်နိုင်မယ်၊ သူ့ရဲ့သတ္တိဗျတ္တိကို နိုင်နင်းသွားမယ်၊ အသင့်လက်ပေါ်မှာ အမှန်တရားပေါ်လွင်ပြီး အမှားဟာ ပြားပြားဝပ်သွားမယ်၊ ကိစ္စအဝဝဟာ အသင့်ရဲ့ လက်ခုပ်ထဲရောက်ပြီး အားလုံးဟာ အသင့်ရဲ့ ထားရာနေစေရာသွားအခြေအနေကို ရောက်သွားခဲ့ရင် မက္ကာဟ်ကို အောင်နိုင်တဲ့နေ့မှာ မက္ကာဟ်ရွှေမြို့တော်ထဲကို အောင်နိုင်သူအဖြစ်နဲ့ ဝင်ရောက်လာခဲ့တဲ့ မြတ်ကိုယ်တော် ﷺကို ကြည့်ပါ။ (သွေးတစ်ပြောက် မှည့်တစ်ပေါက်မစွန်းစေခဲ့ပါဘူး။ ဘေးလည်းမသီရန်လည်းမခစေခဲ့ပါဘူး။)

အသင်ဟာ ကိုယ့်ကိုယ်ကို ပြုပြင်ချင်တယ်၊ အသင့်ရဲ့ပိုင်ဆိုင်မှုတွေကို ကိုယ်တိုင် စီမံခန့်ခွဲရတော့မယ်ဆိုရင် ဗနူနဇွီးရ်၊ ခိုင်ဗရ်၊ ဖဒက်ရဲ့ လယ်ယာမြေတွေကို ပိုင်ဆိုင်ခဲ့ပြီး စနစ်တကျ စီမံခန့်ခွဲခဲ့တဲ့ မြတ်ကိုယ်တော်ﷺရဲ့ နည်းစနစ်တွေကို လေ့လာပါ။ ကိစ္စအဝဝကို ပြုပြင်ပြီးတဲ့အခါ လုပ်ရည်ကိုင်ရည်ရှိတဲ့သူတွေကို လုပ်ပိုင်ခွင့်ပေးခဲ့ပါတယ်။

အသင်ဟာ ယသီးမ်(ဖတဆိုး)ကလေးဖြစ်နေရင် အာမေ့နဟ် သခင်မနဲ့ခင်ပွန်းအဗ်ဒုလ္လာဟ်တို့ရဲ့ ရင်နှစ်သီးချာ အသဲမွှာ၊ သားမြတ်ရတနာလေးကို ကြည့်ပါ၊ သူလေးငယ်စဉ်အခါ နို့စို့အရွယ်မှာပဲ မိဘနှစ် ပါး ကွယ်လွန်သွားရှာတာပါ။

အသင်ဟာ ကလေးငယ် နို့စို့အရွယ်မှာဆိုရင် ကြင်နာတဲ့နို့ထိန်းမိခင်ကြီး ဟလီမဟ် စအ်ဒီယဟ်က နို့တိုက်ကျွေးနေတဲ့ ကြီးကျယ်မြင့်မြတ်တဲ့ ရင်သွေးငယ်လေး မုဟမ္မဒ် ကို ကြည့်ပါ။

အသင်ဟာ ဆယ်ကျော်သက်အရွယ် လူပျိုလူငယ်ဆိုရင် မက္ကဟ်မြို့မှာ ဆိတ်ကျောင်းနေတဲ့ တမန်တော်လောင်းရဲ့ အတ္ထုပ္ပတ္တိကို လေ့လာလိုက်ပါ။

အသင်ဟာ ကုန်ပစ္စည်းတွေရောင်းချနေသူဆိုရင် ကုန်သည်အုပ်စုကြီးကို ဦးဆောင်ပြီး ဘွတ်ဆ်ရာဆီ ဦးတည်နေတဲ့ မြတ်တမန်ရဲ့ အခြေအနေအလုံးစုံကို ကရုစိုက်ပါ။

အသင်ဟာ ဆုံးဖြတ်သူ၊ တရားသူကြီးတစ်ပါးဖြစ်ခဲ့မယ်ဆိုရင် နံနက်နေမထွက်မီ ဟဂျ်ရေ့ အတ်စ်ဝဒ် ကျောက်နက်တော်ကို သူ့နေရာနဲ့မှာပြန်လည်နေရာချထားရေးမှာ ပြဿနာဖြစ်နေတဲ့ အုပ်စုတွေကြားမှုတစ္စာဖြေရှင်းပေးခဲ့တဲ့ တရားသူကြီး မြတ်ကိုယ်တော်ကို ကြည့်လိုက်ပါ။ မတ်စ်ဂျေ့ဒ္ဒေနဗဝီ ဝတ်ကျောင်းတော်ရင်ပြင်မှာ လူတို့အကြားတရားမှုတစ္စာ စီရင်ဆုံးဖြတ်ပေးနေတဲ့ မြတ်ကိုယ်တော်ရဲ့ စီရင်ထုံး

များကို လေ့လာလိုက်ပါ။ သူ့ထံမှာ သူဌေးသူကြွယ်၊ ကျောမွဲသူဆင်းရဲ၊ အားလုံးဟာ အတူတူပါပဲ၊ ကျောသားရင်သား ခွဲခြားမထားပါဘူး။

## (၃၆) ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင် ﷺ(နိဂုံးချုပ်အပိုင်း)

အသင်ဟာ ခင်ပွန်းတစ်ယောက်ဖြစ်နေရင် မိခင်မွန် ခဒီဂျာ၊ မိခင်မွန်အာအေ့ရှာတို့ရဲ့ ခင်ပွန်းကြီးဖြစ်တဲ့ မြတ်ကိုယ်တော်ရဲ့ သန့်စင်မွန်မြတ်လှတဲ့ ဘဝဖြစ်စဉ်တွေ ၊ အိမ်ထောင်ရေး အတ္ထုပ္ပတ္တိတွေကို လေ့လာလိုက်ပါ။

အသင်ဟာ ကလေးတို့ရဲ့ ဖခင်ကြီး ဖြစ်ခဲ့ရင် ဖွာသွေ့မဟ် သခင်မရဲ့ ဖခင်ကြီး၊ ဟစံသခင် ဟိုစိုင်းန်သခင်ကြီးတို့ရဲ့ အဖိုးရဲ့ လမ်းစဉ်ကို သင်ယူလိုက်ပါ။

အသင်ဘယ်သူပဲဖြစ်နေပါစေ၊ အသင့်အခြေအနေတွေက ဘယ်လိုပဲဖြစ်နေပါစေ၊ အသင့်ရဲ့ နံနက်ခင်းတိုင်း၊ အသင့်ရဲ့ ဆည်းဆာချိန်တိုင်း၊ အသင်ကုန်ဆုံးလိုက်တဲ့ ညယံတိုင်း၊ အသင်ကျော်ဖြတ်လိုက်တဲ့ နေတကက်ချိန်တိုင်းမှာ မြတ်ကိုယ်တော်ﷺရဲ့ ဘဝကနေ စံနမူနာ၊ လမ်းညွှန်ချက်တရားတွေ ယူစရာတွေအများကြီးရှိနေပါတယ်။

ဒီစံနမူတွေရဲ့အလင်းကြောင့် အသင့်ဘဝရဲ့ အမှောင်ယံတွေဟာ အလင်းခွင်းပြီးသား ဖြစ်သွားပါလိမ့်မယ်၊ ဒီနဗီကြီးရဲ့ လမ်းစဉ်က အသင့်ဘဝကို ရွှေပေါ်မြတင်ရုံတင်မကဘဲ ရတနာကိုးပါး စီချယ်ထားဘိအလား လင်းလက်တောက်ပစေပါလိမ့်မယ်။

အသင့်ဘဝရဲ့ အနိဋ္ဌာရုံတွေဖရိုဖရဲဖြစ်ခြင်းတွေကို ကုစားပေးပါလိမ့်မယ်၊ အသင့်ဘဝ ပန်းတိုင်ဆီသွားရာလမ်းမှာ ကွေ့ကောက်နေမှု

တွေကို တည့်မတ်ပေးပါလိမ့်မယ်။ ကိုယ်တော့်ရဲ့ လမ်းစဉ်နဲ့ ဂျန္နသ်ခရီး လမ်းကို အသင့်ဖြောင့်မတ်စွာ လျှောက်လှမ်းနိုင်ပါလိမ့်မယ်။

ဘဝရဲ့ကဏ္ဍအလုံးစုံအတွက် လမ်းညွှန်ချက်တွေပါတဲ့ သင်းပျံ့မွှေးကြိုင်ရနံ့လှိုင်နေတဲ့ မြတ်ကိုယ်တော်ﷺရဲ့ စီရသ် အတ္ထုပ္ပတ္တိဟာ ကိုယ်ကျင့်တရားပေါင်းချုပ်ကျမ်းပါ။

ကမ္ဘာ့လူသားအသီးသီးအတွက် ၊ ခေတ်တိုင်းအတွက်၊ အလွှာတိုင်းအတွက် အနှစ်ချုပ် သင်ခန်းစာပါ။ လူ့သဘာဝ၊ ဗီဇ၊ နယ်မြေ ဒေသ၊ အခြေအနေအရ ကွာခြားနေသော်ငြားလည်း ကိုယ်တော်မြတ်ﷺရဲ့ စီရသ် အတ္ထုပ္ပတ္တိဟာ အလင်းကူးညှိလိုသူများအတွက် လင်းရောင်ခြည် ဖြန့်ချိရာ အလင်းဘဏ္ဍာတိုက်ကြီးပါ၊ တရားလမ်းမှန် တောင်းခံလိုသူတွေအတွက် ဘဝရဲ့မီးအိမ်ရှင်ပါ၊ ကိုယ်တော့်ရဲ့ လမ်းညွှန်ချက်အဝဝဟာ လမ်းညွှန်ချက်လိုအပ်နေသူတိုင်း ခိုလှုံထိုက်တဲ့ လုံခြုံလှတဲ့ ခံတပ်တစ်ခုပါ။

